ပုံစံ(မနသ-၂)

## မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်

# ခွင့်ပြုမိန့်

ခွင့်ပြုမိန့်အမှတ် မနသ-၀၃၅/၉၄ ၁၉၉၄ ခုနှစ်၊ ဇူလိုင် လ ရက်။

မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ ၁၀ အရ ဤခွင့်ပြုမိန့်ကို ထုတ်ပေးလိုက်သည်။

(က) ရင်းနှီးမြှုပ်နှံသူ၏အမည် ဦးထွန်းမြင့်နိုင်

(ခ) အဘအမည် ဦးလောစစ်ဟန်

(ဂ) နိုင်ငံသား/အမျိုးသားမှတ်ပုံတင်အမှတ် ၁၂/မရက(နိုင်)၁၀၁၆၃၅

(ဃ) နေရပ်လိပ်စာ အမှတ် ၂၀/၂၃၊ မဒိုးဂိုဏ်ကျောင်းလမ်း၊ (၅)ရပ်ကွက်၊ မရမ်းကုန်းမြို့နယ်၊ ရန်ကုန်မြို့။

(င) ဖွဲ့စည်းထားသည့် သို့မဟုတ် ဖွဲ့စည်းမည့် အဖွဲ့အစည်း အေးရှားဝေါ(လ်)ကုမ္ပဏီလီမိတက် (ASIA WORLD COMPANY LIMITED)

(စ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် လုပ်ငန်းအမျိုးအစား လားရှိုး - မူဆယ်ကားလမ်းအား ပြုပြင်ဖောက်လုပ်၊ တည်ဆောက်၍ လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်း

(ဆ) ရင်းနှီးမြှုပ်နှံမှုပြုလုပ်သည့် အရပ်ဒေသ(များ) မန္တလေး - လားရှိုး - မူဆယ် မြန်ဆောင်ရေးလမ်းမကြီး (လားရှိုး - မူဆယ်လမ်းအပိုင်း) မိုင်တိုင်အမှတ် ၁၇၂/၀မှ ၂၇၄/၃ အထိ၊ ရှမ်းပြည်နယ်မြောက်ပိုင်း။

(ဇ) မတည်ငွေရင်းပမာဏ(ကျပ်) ၉၈၂-သန်း (ကျပ်ကိုးရာရှစ်ဆယ့်နှစ်သန်းတိတိ)

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမိန့်ကြော်ငြာစာအမှတ်၊ ၂၀/၉၆
ရန်ကုန်မြို့၊ ၁၃၅၈ ခုနှစ်၊ ဒုတိယဝါဆိုလဆန်း ၇ ရက်
(၁၉၉၆-ခုနှစ်၊ ဇူလိုင်လ ၂၂ ရက်)

၁။ ASIA WORLD COMPANY LIMITED - သည် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းပိုင်ရှမ်းပြည်နယ် မြောက်ပိုင်းမန္တလေး - လားရှိုး - မူဆယ်ပြည်ထောင်စုလမ်းမကြီး၏လားရှိုး - မူဆယ်လမ်းအပိုင်း မိုင်တိုင်အမှတ်၁၇၂/၀မှ ၂၇၄/၃အထိ(၁၀၂)မိုင်၊(၃) ဖါလုံရှည်လျားသောလမ်းမကြီးအားပြုပြင်ဖောက်လုပ်တည်ဆောက်၍လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကို လုပ်ကိုင်ဆောင်ရွက်ခွင့်ရရှိရန်အတွက်(၂၆-၅-၉၆) နေ့တွင်ကျင်းပပြုလုပ်သည့် ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရအဖွဲ့၏(၁၉/၉၆)ကြိမ်မြောက်အစည်းအဝေးသို့ ဆောက်လုပ်ရေးဝန်ကြီးဌာနမှတင်ပြခဲ့ရာ အစိုးရအဖွဲ့မှအဆိုပါလုပ်ငန်းဆောင်ရွက်ရန်မူအားဖြင့်သဘောတူညီခဲ့ပါသည်။

၂။ ထို့အပြင်အဆိုပြုလုပ်ငန်းအား(၅-၇-၉၆) နေ့တွင်ကျင်းပပြုလုပ်ခဲ့သည့် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏(၁၀/၉၆)ကြိမ်မြောက်အစည်းအဝေးတွင်တင်ပြခဲ့ရာ ယင်းအစည်းအဝေးမှသဘောတူကြောင်းဆုံးဖြတ်ခဲ့ပါသည်။ အဆိုပါဆုံးဖြတ်ချက်အရ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေ၊ အခန်း-၅၊ ပုဒ်မ-၁၀ အရအပ်နှင်းထားသောလုပ်ပိုင်ခွင့်များကိုကျင့်သုံးလျက် ASIA WORLD COMPANY LIMITED အားမန္တလေး - လားရှိုး - မူဆယ်ပြည်ထောင်စုလမ်းမကြီး၏လားရှိုး - မူဆယ်လမ်းအပိုင်းအား ပြုပြင်ဖောက်လုပ်တည်ဆောက်၍လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းကိုအနှစ်(၃၀) ဆောင်ရွက်နိုင်ရန်အတွက်ခွင့်ပြုမိန့်အမှတ်၊ မနသ-၀၃၅/၉၆ ကိုထုတ်ပေးလိုက်သည်။

၃။ လမ်းဖြတ်သန်းခ ကောက်ခံခြင်းလုပ်ငန်းကိုဆက်လက်ဆောင်ရွက်လိုလျှင် နောက်ထပ်(၅) နှစ်နှစ်ကြိမ်သက်တမ်းတိုးမြှင့်၍ ကောက်ခံခွင့်ရရှိရေးအတွက် ကော်မရှင်သို့တင်ပြလျှောက်ထားရမည်။

၄။ ASIA WORLD COMPANY LIMITED - အနေဖြင့် ဤခွင့်ပြုမိန့်အရ မန္တလေး-လားရှိုး-မူဆယ်ပြည်ထောင်စုလမ်းမကြီး၏လားရှိုး-မူဆယ်လမ်း အပိုင်းဖောက်လုပ်ဆောင်ရွက်ရာတွင် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှု ဥပဒေအခန်း (၇)၊ ပုဒ်မ-၁၂အရ လမ်းဖြတ်သန်းခစတင် ကောက်ခံသည့် ပထမ (၃) နှစ်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်နှင့်ယင်း နောက်ပိုင်းသင့်တော်သော အနှုန်းဖြင့် ကောက်ခံသွားရန်နှင့်ဥပဒေပုဒ်မ-၁၃ ပါပြဋ္ဌာန်းချက်များနှင့် အညီ အောက်ဖော်ပြပါအခွန်ကင်းလွတ်ခွင့်နှင့်သက်သာခွင့်များကိုခံစားခွင့်ပြုရန် ဤအမိန့်ကြော်ငြာစာကိုထုတ်ပြန်လိုက်သည်။

(က) ဥပဒေပုဒ်မ-၁၃(က)အရလုပ်ငန်း၏ရင်းနှီးမြှုပ်နှံမှုတွင်ပါဝင်သောနိုင်ငံခြားငွေပမာဏအပေါ်မူတည်၍ ဝင်ငွေခွန်သက်သာခွင့်ခံစားနိုင်ရန်အတွက်ကနဦးရင်းနှီးမြှုပ်နှံမှုကာလအတွင်း နိုင်ငံခြားငွေဖြင့်ရင်းနှီးမြှုပ်နှံသည့်ပမာဏကို ဖော်ပြလျက်လုပ်ငန်းအကောင်အထည် ဖော်မှုအခြေအနေ ပေါ်မူတည်၍ ဤကော်မရှင်သို့ လျှောက်ထားရမည်။

(ခ) ဥပဒေပုဒ်မ-၁၃(ခ)အရလုပ်ငန်းမှရရှိသည့်အမြတ်ငွေကိုသီးသန့်ရန်ပုံငွေထား၍တစ်နှစ်အတွင်းလုပ်ငန်း၌ပြန်လည်ရင်းနှီးမြှုပ်နှံလျှင် ထိုအမြတ်ငွေအပေါ်တွင် ဝင်ငွေခွန်ကင်းလွတ်ခွင့်(သို့မဟုတ်)သက်သာခွင့်ရရှိရန်အတွက်ဝင်ငွေခွန်ကင်းလွတ်ခွင့်ကာလကုန်ဆုံးပြီးသည့်အခါလုပ်ငန်းအမှန်တကယ်အကောင်အထည်ဖော်နိုင်မှုအခြေအနေကို ဖော်ပြလျက် ကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ဂ) ဥပဒေပုဒ်မ-၁၃(ဆ)အရလုပ်ငန်းသုံးမတည်ပစ္စည်းများ အပေါ်တန်ဖိုးလျော့ငွေကိုသတ်မှတ်သည့်နှုန်းအတိုင်းနှစ်တိုတိုနှင့် မူလတန်ဖိုးပြည့်မီသည်အထိအမြတ်ငွေကိုနုတ်ပယ်ခွင့်နှင့်စပ်လျဉ်း၍ ယင်းတန်ဖိုးလျော့နှုန်းထားများကို ကော်မရှင်သို့တင်ပြ လျှောက်ထားရမည်။

(ဃ) ဥပဒေပုဒ်မ-၁၃(ဇ)အရကနဦးရင်းနှီးမြှုပ်နှံမှုကာလ အတွင်းပြည်တွင်း၌မရရှိနိုင်သည့်အမှန်တကယ်လိုအပ်၍ပြည်ပမှ တင်သွင်းသောစက်ပစ္စည်း၊ စက်အရန်ပစ္စည်း၊ စက်ကိရိယာအစိတ်အပိုင်း၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကိုကင်းလွတ်ခွင့်ပြုသည်။

(င) ဥပဒေပုဒ်မ-၁၃( ဈ )အရကနဦးရင်းနှီးမြှုပ်နှံမှုကာလကုန်ဆုံး၍ ပထမ( ၃ )နှစ်အတွက်ဝန်ဆောင်မှုလုပ်ငန်းဆောင်ရွက်ရန်တင်သွင်းသည့်ကုန်ကြမ်းများ၊ လုပ်ငန်းသုံးပစ္စည်းများအပေါ်တွင်အကောက်ခွန်နှင့်အခြားပြည်တွင်းအခွန်အကောက်များကို ကင်းလွတ်ခွင့်ပြုသည်။

၅။ မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေပုဒ်မ-၁၃(ဇ) အရ ပြည်ပမှတင်သွင်းသည့်စက်ပစ္စည်းများနှင့်ပတ်သက်၍ အောက်ပါအတိုင်းလိုက်နာဆောင်ရွက်ရမည်။

(က) နိုင်ငံခြားငွေရရှိပုံနည်းလမ်း( Source of Payments for Import )ဥပမာ-ပြည်ပတင်ပို့မှုမှဝင်ငွေ၊ ပြည်ပချေးငွေ( Loan and Credits )၊ ကုန်ပစ္စည်းပြန်လည်ဝယ်ယူသည့်စနစ်( Buy - back System )စသည်တို့ကို ဖော်ပြရန်။

(ခ) တင်သွင်းမည့်ပစ္စည်းအမျိုးအစားစာရင်း(Invoice and Packing List )များကို နိုင်ငံခြားမတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်သို့တင်ပြ၍ ထောက်ခံချက်ရယူရန်။

၆။ ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းနှင့် ASIA WORLD COMPANY LIMITED တို့သည်မန္တလေး-လားရှိုး-မူဆယ် ပြည်ထောင်စုလမ်းမကြီး( လားရှိုး-မူဆယ်လမ်းအပိုင်း )ပြုပြင်ဖောက်လုပ်တည်ဆောက်၍လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်းလုပ်ကိုင်ခွင့်ပဋိညာဉ်စာချုပ်ချုပ်ဆိုပြီးသည့်အခါအဆိုပါပဋိညာဉ်စာချုပ်မိတ္တူ( ၅ ) စောင်ကို ကော်မရှင်သို့တင်ပြရမည်။

၇။ ASIA WORLD COMPANY LIMITED - သည်စာချုပ်ချုပ်ဆိုပြီး(၂၈)ရက်အတွင်းရင်းနှီးမြှုပ်နှံမှုပမာဏ၏ ၁ ရာခိုင်နှုန်းနှင့်ညီမျှသောငွေကို ပြည်ထောင်စုမြန်မာနိုင်ငံအတွင်းရှိတရားဝင်ခွင့်ပြုထားသောဘဏ်တစ်ခုခုမှ ထုတ်ပေးသည့်ကြိုတင်စည်းကမ်းချက်မပါရှိဘဲပြန်လည်ရုတ်သိမ်းခွင့်မရှိသောလုပ်ငန်းအကောင်အထည်ဖော်ရန်တာဝန်ယူသည့်ဘဏ်အာမခံကို ဆောက်လုပ်ရေးဝန်ကြီးဌာနပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းသို့ထုတ်ပေးရမည်။ အဆိုပါဘဏ်အာမခံ၏သက်တမ်းသည်စတင်ထုတ်ပေးသည့်နေ့မှလုပ်ငန်းပြီးဆုံးအောင် ဆောင်ရွက်သည်အထိဖြစ်သည်။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည်လုပ်ငန်းစတင်ရန်အကြောင်းကြားစာရပြီး(၃၀)ရက်အတွင်းလုပ်ငန်းစတင်ရန်ပျက်ကွက်လျှင် သော်လည်းကောင်း၊ ( ၃၆ )လအတွင်းလုပ်

ငန်းပြီးစီး အောင် ဆောင်ရွက်ရန်အပါအဝင်စာချုပ်ပါစည်းကမ်းချက်များကိုလိုက်နာရန်ပျက်ကွက်ပါက ဘဏ်အာမခံ ငွေကိုလုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူကသိမ်းယူရမည်။ ဘဏ်အာမခံကိုလုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှုလက်မှတ်ထုတ် ပေးပြီးရက်ပေါင်း (၃၀) အတွင်းလုပ်ငန်းလုပ်ကိုင်ခွင့်ရသူ ASIA WORLD COMPANY LIMITED - ထံ ပြန်လည်ထုတ် ပေးရမည်။

၈။ ASIA WORLD COMPANY LIMITED - မှ နိုင်ငံခြားသားကျွမ်းကျင်သူများငှားရမ်းမည်ဆိုပါက မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေဆိုင်ရာလုပ်ထုံးလုပ်နည်းများအခန်း ၉၊ အပိုဒ် ၃၃ တွင်သတ်မှတ်ချက်များနှင့်အညီ ကော်မရှင်သို့သီးခြားတင်ပြ လျှောက်ထားရမည်။

၉။ ASIA WORLD COMPANY LIMITED - သည်လုပ်ငန်းအကောင်အထည် ဖော် ဆောင်ရွက်ရာတွင် ပြည်သူ့ ဆောက်လုပ် ရေးလုပ်ငန်းမှသတ်မှတ်ထားသည့်လုပ်ငန်းစံချိန်၊ စံညွှန်းများနှင့်ကိုက်ညီ အောင် ဆောင်ရွက်ရမည်။

၁၀။ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ ပြည်သူ့ ဆောက်လုပ် ရေးလုပ်ငန်းနှင့်လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ ASIA WORLD COMPANY LIMITED - တို့မှကိုယ်စားလှယ်များပါဝင် သော စီမံကွပ်ကဲ ရေး ကော်မတီတစ်ရပ်ဖွဲ့စည်းပြီး၊ လမ်းတည် ဆောက်ပြုပြင်ခြင်းနှင့်လုပ်ငန်း ဆောင်ရွက်ခြင်းများကိုကြီးကြပ်ကွပ်ကဲရမည်။

၁၁။ AISA WORLD COMPANY LIMITED - သည် ဤခွင့်ပြုမိန့်အရ လုပ်ငန်း ဆောင်ရွက်ရာတွင် ပတ်ဝန်းကျင် လေထု၊ ရေထု၊ မြေထုညစ်ညမ်းမှုစသည်များမဖြစ် ပေါ် စေရန်အတွက်လိုအပ်သည့်ပတ်ဝန်းကျင်ညစ်ညမ်းမှုထိန်းသိမ်းကာကွယ် ရေးအစီအမံများကိုစနစ်တကျထားရှိ ဆောင်ရွက်ရမည်။

၁၂။ အဆိုပြုလုပ်ငန်းစတင် ဆောင်ရွက်သည့် နေ့ရက်ကို ဤ ကော်မရှင်သို့အမြန်ဆုံးအစီရင်ခံရမည်။

၁၃။ ဤခွင့်ပြုမိန့်ထုတ်ပေးသည့်နေ့မှစ၍ တစ်နှစ်အတွင်း အဆိုပြုလုပ်ငန်းကိုစတင် ဆောင်ရွက်ခြင်းမပြုနိုင်ပါက ဤခွင့်ပြုမိန့်သည်အလိုအလျောက် ပျက်ပြယ်ပြီးဖြစ်သည်ဟုမှတ်ယူရမည်။

အမိန့်အရ-

(ဗိုလ်မှူးချုပ် မောင်မောင်)
အတွင်းရေးမှူး
[ဝန်ကြီး၊ ဒုတိယဝန်ကြီးချုပ်ရုံး]

စာအမှတ်၊ ၇က-၁/မ-၀၆၇/၉၆(၈၅၀၅)၊
ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ ဇူလိုင်လ ၂၂ ရက်။

<u>ဖြန့်ဝေခြင်း။</u>

၁။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ဥက္ကဋ္ဌရုံး။
၂။ နိုင်ငံတော်ငြိမ်ဝပ်ပိပြားမှုတည်ဆောက်ရေးအဖွဲ့ရုံး။
၃။ အစိုးရအဖွဲ့ရုံး။
၄။ ဒုတိယဝန်ကြီးချုပ်ရုံး။
၅။ အမျိုးသားစီမံကိန်းနှင့်စီးပွားရေးဖွံ့ဖြိုးတိုးတက်မှုဝန်ကြီးဌာန။
၆။ ဘဏ္ဍာရေးနှင့်အခွန်ဝန်ကြီးဌာန။
၇။ ကုန်သွယ်ရေးဝန်ကြီးဌာန။
၈။ ဆောက်လုပ်ရေးဝန်ကြီးဌာန။
၉။ လူဝင်မှုကြီးကြပ်ရေးနှင့်ပြည်သူ့အင်အားဝန်ကြီးဌာန။
၁၀။ ဥက္ကဋ္ဌ၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်။
၁၁။ ဥက္ကဋ္ဌ၊ နိုင်ငံခြားမှတည်ငွေရင်းတန်ဖိုးသတ်မှတ်ရေးအဖွဲ့ငယ်၊
(ညွှန်ကြားရေးမှူးချုပ်၊ ဗဟိုစက်ပစ္စည်းစာရင်းအင်းနှင့်စစ်ဆေးရေးဦးစီးဌာန)

၁၂။ ညွှန်ကြားရေးမှူးချုပ်၊ အကောက်ခွန်ဦးစီးဌာန။
၁၃။ ညွှန်ကြားရေးမှူးချုပ်၊ ပြည်တွင်းအခွန်များဦးစီးဌာန။
၁၄။ ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့အာမခံလုပ်ငန်း။
၁၅။ ညွှန်ကြားရေးမှူးချုပ်၊ ကုန်သွယ်ရေးညွှန်ကြားမှုဦးစီးဌာန။
၁၆။ ဦးဆောင်ညွှန်ကြားရေးမှူး၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း။
၁၇။ ဥက္ကဋ္ဌ၊ ပြည်ထောင်စုမြန်မာနိုင်ငံကုန်သည်များနှင့်စက်မှုလက်မှုလုပ်ငန်းရှင်များအသင်း။
၁၈။ ညွှန်ကြားရေးမှူးချုပ်၊ ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန။
၁၉။ ASIA WORLD COMPANY LIMITED ။

အမိန့်အရ—

( မောင်မောင်ရီ )
တွဲဖက်အတွင်းရေးမှူး ။



* ၆ ဦ ၁၈-၇-၉၆။

ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရ
ဆောက်လုပ်ရေး ဝန်ကြီးဌာန

# ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

နှင့်

အေးရှားဝေါ(လ်) ကုမ္ပဏီလီမိတက် တို့ ချုပ်ဆိုသည့်

## မန္တလေး–လားရှိုး–မူဆယ် ပြည်ထောင်စုလမ်းမကြီး (လားရှိုး–မူဆယ် အပိုင်း) ပြုပြင်ဖောက်လုပ်၊ လုပ်ငန်းလုပ်ကိုင်ရေး ပဋိညာဉ်စာချုပ်

ကန်ထရိုက်နံပါတ် – PW / AW / 96 - 97 / MLM / TR - 01

ဇူလိုင်လ၊ ၁၉၉၆ခုနှစ်

## မန္တလေး–လားရှိုး–မူဆယ် ပြည်ထောင်စုလမ်းမကြီး (လားရှိုး–မူဆယ် အပိုင်း) ပြုပြင်ဖောက်လုပ်၊ လုပ်ငန်းလုပ်ကိုင်ရေး ပဋိညာဉ်စာချုပ်

ဤစာချုပ်ကို ပြည်ထောင်စုမြန်မာနိုင်ငံ၊ ရန်ကုန်မြို့တွင် ၁၉၉၆ခုနှစ်၊ လ၊ ရက်နေ့၌ ဆောက်လုပ်ရေးဝန်ကြီးဌာန ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊ အမှတ်(၆၀)၊ ရွှေတိဂုံဘုရားလမ်း၊ ဒဂုံမြို့နယ်၊ ရန်ကုန်မြို့ ( ဤမှနောက်တွင် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ယင်း၏ တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟုမှတ်ယူရမည် ) က ဤပဋိညာဉ်စာချုပ်ချုပ်ဆိုရန် ကိုယ်စားပြုတာဝန်ပေးအပ်ခြင်းခံရသော ဦးဆောင်ညွှန်ကြားရေးမှူးက တဖက်

နှင့်

အေးရှားဝေါ(လ်) ကုမ္ပဏီလီမိတက်၊ အမှတ်(၆၁–၆၂)၊ ဗဟိုစည်အိမ်ယာစီမံကိန်း၊ ဝါးတန်းလမ်း၊ လမ်းမတော်မြို့နယ်၊ရန်ကုန်မြို့ ( ဤမှနောက်တွင် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ယင်း၏ တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများပါဝင်သည်ဟု မှတ်ယူရမည် )က ဤပဋိညာဉ် စာချုပ်ချုပ်ဆိုရန် ကိုယ်စားပြုတာဝန်ပေးအပ်ခြင်းခံရသော အုပ်ချုပ်မှုဒါရိုက်တာက အခြားတဖက်တို့ ချုပ်ဆိုကြပါသည်။

**နိဒါန်း**

လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လမ်းနှင့်တံတားအသုံးပြုခနှင့် အခြားအကျိုးခံစားခွင့်များကို ထည့်သွင်းထား၍လည်းကောင်း၊ တင်ဒါပါစည်းကမ်းချက်များကို ဆန်းစစ်၍လည်းကောင်း၊ စာချုပ်ပါလုပ်ငန်းများ ဆောင်ရွက်ရန်အလို့ငှာ ဤပဋိညာဉ်စာချုပ်ကို နှစ်ဦးနှစ်ဘက် အကြေအလည် ညှိနှိုင်းပြီးနောက် အောက်ပါအတိုင်း သဘောတူကြပါသည်။

၁။ (က) ဆောင်ရွက်ရမည့် လုပ်ငန်းများ

(၁) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် အရှည်(၁၀၂)မိုင်၊ (၃)ဖာလုံရှိသော မန္တလေး–လားရှိုး–မူဆယ် ပြည်ထောင်စုလမ်းမကြီး ( လားရှိုး–မူဆယ်လမ်းအပိုင်း မိုင်တိုင် ၁၇၂/၀ မှ ၂၇၄/၃ ) ကို ပုံစံပြုရန်၊ ဖောက်လုပ်တည်ဆောက်ရန်၊

(၂) လမ်းတံတားအသုံးပြုခ ကောက်ခံရန်ဂိတ်များ၊ ကောက်ခံသည့်ရုံးများ၊ ထိန်းချုပ်ရေးနှင့် ဆက်သွယ်ရေးစနစ်များ၊ ယာဉ်ရပ်နားစခန်းများ၊ လမ်းကူးလမ်းစပ်များ၊ နားခိုလာနေရာများနှင့် အပန်းဖြေစခန်းများအတွက် ပုံစံပြုရန်နှင့် တည်ဆောက်လုပ်ရန်၊

(၃) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ဤစာချုပ်ပါ လမ်းပိုင်းအတွက် လမ်း၊ တံတား အသုံးပြုခ ကောက်ခံရန် တစ်ဦးတည်းကိုယ်စားလှယ် အဖြစ်ဆောင်ရွက်ရန်၊

(၄) အဆိုပါ လမ်းပိုင်းအတွက် လမ်း၊ တံတားအသုံးပြုခနှင့် အခြားအကျိုးခံစား ခွင့်များကို နှစ်ပေါင်း(၃၀)အထိ ကောက်ခံရရှိစေရန်၊

(ခ) <u>လမ်းတံတား အသုံးပြုခကောက်ခံရာဂိတ်များ</u> - ကောက်ခံရာဂိတ်များနှင့် နှုန်းထားများမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

(၁) အသွားခရီးအတွက် ( လားရှိုး မှ မူဆယ် )

(ကက) ဂိတ်အမှတ် ၁ - လားရှိုး
(ခခ) ဂိတ်အမှတ် ၂ - သိန္နီ
(ဂဂ) ဂိတ်အမှတ် ၃ - ကွတ်ခိုင်
(ဃဃ) ဂိတ်အမှတ် ၄ - နမ့်ဖက်ကာ

(၂) အပြန်ခရီးအတွက် ( မူဆယ် မှ လားရှိုး )

(ကက) ဂိတ်အမှတ် ၁ - မူဆယ်
(ခခ) ဂိတ်အမှတ် ၂ - နမ့်ဖက်ကာ
(ဂဂ) ဂိတ်အမှတ် ၃ - ကွတ်ခိုင်
(ဃဃ) ဂိတ်အမှတ် ၄ - သိန္နီ

(ဂ) <u>လမ်းတံတား အသုံးပြုခနှုန်းများ</u> - လမ်းတံတားအသုံးပြုခနှုန်းများမှာ

(၁) ယာဉ်ငယ် (၁တန်အောက်) - တစ်စီးလျှင် ကျပ်( ၁၀၀)
(၂) ယာဉ်လတ်(၁တန်နှင့် ၂ ၃/၄တန်) - တစ်စီးလျှင် ကျပ်( ၃၀၀)
(၃) ခရီးသည်တင်ကား (အကြီး) - တစ်စီးလျှင် ကျပ်( ၅၀၀)
(၄) ထရပ်ကားများ (အလတ်)(၁၀တန်အထိ) - တစ်စီးလျှင် ကျပ်(၁၀၀၀)
(၅) ထရပ်ကားများ (၂၀တန်အထိ) - တစ်စီးလျှင် ကျပ်(၂၀၀၀)

တန်(၂၀)နှင့်အထက်ယာဉ်များသည် နောက်ထပ်ပိုသော (၁)တန်တိုင်းအတွက် ကျပ်(၂၀၀)စီ ထပ်မံပေးဆောင်ရမည်။ နှုန်းထားများကို မည်သို့ပင်သတ်မှတ်ထားစေကာမူ နိုင်ငံတော်မှ အခါအားလျော်စွာ သတ်မှတ်ပေးသည့် နှုန်းထားအတိုင်း ကောက်ခံသွားရန် ဖြစ်ပါသည်။

## အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း

၂။ ပဋိညာဉ်စာချုပ်ဝင်များသည် မြန်မာနိုင်ငံ၏တည်ဆဲဥပဒေများအရ ဖွဲ့စည်းထား၍ အခွင့်အာဏာအပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူဖြစ်ပြီး၊ ၎င်းတို့တွင် ပဋိညာဉ်စာချုပ်ကိုချုပ်ဆိုရန်အလို့ငှာ ငွေကြေးအင်အားပြည့်စုံပြီး လုပ်ပိုင်ခွင့်အာဏာများရှိသူဖြစ်ကြောင်း အသီးသီးကိုယ်စားပြုအာမခံချက် ပေးပါသည်။

## အဓိပ္ပါယ်ဖွင့်ဆိုချက်များ

၃။ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူပိုင်" စက်ယန္တယားများဆိုသည်မှာ ဤစီမံကိန်းလုပ်ငန်းကိုပြီးစီးအောင်ဆောင်ရွက်ရာတွင်လည်းကောင်း၊ လုပ်ငန်းပျက်စီးသည့်အစိတ်အပိုင်းများပြုပြင်ဆောင်ရွက်ရာတွင်လည်းကောင်း၊ အသုံးပြုမည့် စက်၊ ယာဉ်၊ ယန္တယားများ၊ စက်သုံးကရိယာ တန်ဆာပစ္စည်းများကိုခေါ်ဆိုသည်။ အမြဲတမ်းလုပ်ငန်းများအတွက် ရည်ရွယ်၍တည်ဆောက်ထားသော အဆောက်အဦး၊ စက်ရုံ၊ အလုပ်ရုံ၊ လုပ်ငန်းသုံးပစ္စည်းများ ပါဝင်ခြင်း မရှိစေရပါ။

(ခ) "ပစ္စည်း" ဆိုသည်မှာ ( စက်ရုံ၊ အလုပ်ရုံများမှအပ ) ဤပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များအရ စီမံကိန်းလုပ်ငန်းအတွက်လိုအပ်သော လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှ ပေးသွင်းသည့်လိုအပ်ပါက နိုင်ငံခြားမှမှာယူတင်သွင်းသော ပစ္စည်းများအပါအဝင် လုပ်ငန်းသုံးပစ္စည်းအားလုံးကို ခေါ်ဆိုသည်။

(ဂ) "အမြဲတမ်းလုပ်ငန်းများ" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ပါ စီမံကိန်းလုပ်ငန်းတွင် အကျုံးဝင်သော ပုံစံပြုဆောင်ရွက်ရမည့် အမြဲတမ်းလုပ်ငန်းများကို ခေါ်ဆိုပါသည်။

(ဃ) "စက်ရုံ၊အလုပ်ရုံ" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များအရ၊"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ ဤစီမံကိန်းလုပ်ငန်းတွင်အကျုံးဝင်သော အမြဲတန်းလုပ်ငန်းများဆောင်ရွက်ရာတွင် အထောက်အကူဖြစ်စေရန်ရည်ရွယ်၍ စက်ပစ္စည်း၊ ကရိယာ(လိုအပ်က နိုင်ငံခြားမှ မှာယူတင်သွင်းသည့် စက်ပစ္စည်း၊ ကရိယာ) များ တပ်ဆင်ထားသည့် စက်ရုံ၊ အလုပ်ရုံကို ခေါ်ဆိုသည်။

(င) "အပိုင်း" ဆိုသည်မှာ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ တာဝန်ယူ ပုံစံပြုဆောက်လုပ်ရမည့် လုပ်ငန်းတစ်စိတ်တစ်ပိုင်းအား ဆိုလိုသည်။

(စ) "လုပ်ခွင်နေရာ" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်တွင် ရည်ညွှန်းဖော်ပြထားသည့် လုပ်ငန်းတစ်စိတ်တစ်ပိုင်း၏နေရာများ၊ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" မှ လုပ်ငန်းဆောင်ရွက်ရန် သတ်မှတ်ပေးထားသည့်နေရာများ၊ ရုံးအဆောက်အဦး၊ စက်ရုံ၊

အလုပ်ရုံ တည်ဆောက်ထားသည့်နေရာများ၊ ပစ္စည်းများစုပုံထားသည့် နေရာများကို ခေါ်ဆိုသည်။

(ဆ) "ယာယီလုပ်ငန်းများ" ဆိုသည်မှာ ဤစီမံကိန်း "လုပ်ငန်း" ကို ပြီးစီးအောင်အကောင်အထည်ဖော်ဆောင်ရွက်ရာတွင်လည်းကောင်း၊ လုပ်ငန်း၏ပျက်စီးယိုယွင်းနေသည့် အစိတ်အပိုင်းများ ပြုပြင်ဆောင်ရွက်ရာတွင်လည်းကောင်း၊ အထောက်အကူပြုသည့် လုပ်ငန်းများကို ခေါ်ဆိုသည်။

(ဇ) "ပြောင်းလဲခြင်း"ဆိုသည်မှာ ဤပဋိညာဉ်အပိုဒ်(၂၀)အရ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ တရားဝင်ကိုယ်စားလှယ်မှ အကည်ပြုပြီးသော လုပ်ငန်းပြောင်းလဲခြင်း၊ သို့မဟုတ် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ တရားဝင်ကိုယ်စားလှယ်မှ လုပ်ငန်းသဘာဝအရ လုပ်ငန်းပိုမိုကောင်းမွန်စေရန် လုပ်ငန်းပြောင်းလဲလုပ်ကိုင်ရန် တရားဝင်ညွှန်ကြားသည့် လုပ်ငန်းများကို ဆိုလိုပါသည်။

(ဈ) "တဆင့်ခံလုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"ဆိုသည်မှာ ဤပဋိညာဉ်စာချုပ် အပိုဒ်(ဂ)၊အပိုဒ်(ဇ) အရ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ"ထံမှ လုပ်ငန်းတစ်စိတ်တစ်ပိုင်းအား တရားဝင်ခွဲဝေ လုပ်ကိုင်ခွင့်ရသူ၊ (သို့မဟုတ်) လုပ်ငန်းနှင့်သက်ဆိုင်သည့်ပစ္စည်းများ၊ စက်ယန္တရားများ ပေးသွင်းခွင့်ရသူများကို ဆိုလိုသည်။

(ည) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏တရားဝင်ကိုယ်စားလှယ်" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ် အရ ဤစီမံကိန်းလုပ်ငန်းနှင့်ပတ်သက်၍ "လုပ်ငန်းလုပ်ပိုင်ခွင့်ပြုသူ"၏ တာဝန်များကို ဆောင်ရွက်ရန် "လုပ်ငန်းလုပ်ပိုင်ခွင့်ပြုသူ" မှ တရားဝင်သတ်မှတ် ပေးထားသည့် ကိုယ်စားလှယ်ကို ဆိုလိုသည်။

<u>လုပ်ငန်းအမျိုးအစားဖော်ပြချက်</u>

၄။ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) ဤစီမံကိန်းလုပ်ငန်း၏ လမ်းနယ်နိမိတ်အားကျေးရွာများအတွင်း ဖြတ်သန်းသည့်နေရာများမှအပ ပေ(၂၀၀)အကျယ် သတ်မှတ်သည်။ မြို့များအတွင်းတွင်သက်ဆိုင်ရာမြို့နယ် စည်ပင်သာယာရေးအဖွဲ့မှ သတ်မှတ်ထားသည့် လမ်းနယ်နိမိတ်သာဖြစ်စေရမည်။

(ခ) "လမ်းသားအကျယ်"မှာ (၂)လမ်းသွားအတွက် (၃၈)ပေအကျယ်ရှိစေရမည်။တောင်ပေါ် ဒေသများတွင် လမ်းသားအကျယ်အား အနဲဆုံး (၂၈)ပေ အကျယ်ရှိစေရမည်။

(ဂ) ယာဉ်သွားလမ်းအကျယ်အား ပထမအဆင့်အနေဖြင့် (၁၈)ပေအကျယ်ကို (၃)နှစ် အတွင်း အပြီးတည်ဆောက်ပေးရမည်။ ပထမအဆင့်ပြီးမှသာ ယာဉ်သွားလမ်းအား (၂၂)ပေအကျယ် သို့ တိုးချဲ့တည်ဆောက်ပေးရမည်။

(ဃ) လမ်းသားတည်ဆောက်ရာတွင် ယာဉ်နှင့်ကုန်အလေးချိန် စုစုပေါင်း(၄၀)တန် ခံနိုင်ရန် တည်ဆောက်ပေးရမည်။

(င) တံတားများတည်ဆောက်ရာတွင် ( AASHTO HS 20-44 လမ်းမကြီးများ သတ်မှတ်စံနှုန်းအရ ) ယာဉ်နှင့်ကုန် စုစုပေါင်းအလေးချိန် (၆၀)တန်ခံနိုင်ရန် တည်ဆောက်ပေးရမည်။ တံတားအပေါ်ပိုင်းကိုယ်ထည်မှာ သံမဏိသံဘောင်တံတား၊ (သို့မဟုတ်) သံအားဖြည့် ဘိလပ်မြေ ကွန်ကရစ်တံတားကိုယ်ထည်များ ဖြစ်စေရမည်။

(စ) ပေ(၁၀၀)နှင့်အထက် အရှည်ရှိတံတားများအား အဓိကတံတားကြီးများအဖြစ်သတ်မှတ်သည်။ ယင်းတံတားကြီးများတည်ဆောက်ရာတွင် အပိုဒ်(၄) အပိုဒ်ခွဲ(င)ပါ သတ်မှတ်ချက်အတိုင်း တည်ဆောက်ပေးရမည်။

(ဆ) ဤပဋိညာဉ်စာချုပ်ပါ စီမံကိန်းလုပ်ငန်းလမ်းမကြီးအား ပြန်လည်တည်ဆောက်ခြင်းလုပ်ငန်းများဆောင်ရွက်နေစဉ်လည်းကောင်း၊ ပြင်ဆင်ထိန်းသိမ်းခြင်းလုပ်ငန်းများဆောင်ရွက်နေစဉ်လည်းကောင်း၊ လမ်းခရီးဆက်သွယ်မှုမပြတ်တောက်စေရန် "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ တာဝန်ယူစေရမည်။

ဆောင်ရွက်ရမည့် လုပ်ငန်းအဆင့်ဆင့်

၅။ ဤစီမံကိန်းလုပ်ငန်း လမ်းမကြီးဖောက်လုပ်တည်ဆောက်ရာတွင် ဆောင်ရွက်ရမည့် လုပ်ငန်းအဆင့်ဆင့်မှာ အောက်ဖော်ပြပါအတိုင်း ဖြစ်ပါသည် -

(က) လမ်းနယ်နိမိတ်အတွင်း သစ်ပင်များခုတ်လှဲခြင်း၊ သစ်ငုတ်များဖယ်ရှားခြင်း၊ ရှင်းလင်းခြင်းလုပ်ငန်း၊

(ခ) လမ်းကြောင်းမြေတူးဖော်ခြင်းလုပ်ငန်း၊

(ဂ) လမ်းကြောင်းမြေဖို့ရန် အခြားနေရာများမှ မြေတူးခြင်းလုပ်ငန်း၊

(ဃ) လမ်းမြေသားတာဘောင်ဖို့ခြင်းလုပ်ငန်း၊

(င) ဒုအခြေခံလွှာ တည်ဆောက်ခြင်းလုပ်ငန်း၊

(စ) အခြေခံလွှာ တည်ဆောက်ခြင်းလုပ်ငန်း၊

(ဆ) ကနဦးလွှာ ကတ္တရာလောင်းခြင်းလုပ်ငန်း၊

(ဇ) နိုင်လွှန်ကတ္တရာအလွှာခင်းခြင်းလုပ်ငန်း၊

(ဈ) လက်ရှိလမ်းသားမျက်နှာပြင်၊ လမ်းပုံသဏ္ဍာန်အမှန်ရရှိအောင် ပြင်ညှိအလွှာမျက်နှာပြင်တို့နှင့် နိုင်လွှန်ကတ္တရာအလွှာအကြား ကတ္တရာလောင်းခြင်းလုပ်ငန်း၊

(ည) လမ်းပုံသဏ္ဍာန်မှန်ရရှိရန် ပြင်ညှိအလွှာတည်ဆောက်ခြင်းလုပ်ငန်း၊

(ဋ) လမ်းပခုံးများတည်ဆောက်ခြင်း၊ လမ်းဘေးဝဲယာ ရေနုတ်မြောင်းတူးဖော်ခြင်းလုပ်ငန်း၊ နိမ့်လျှောမြေသားမျက်နှာပြင်များ ပြုပြင်ခြင်းလုပ်ငန်းများ၊

(ဌ) လမ်းသားနှင့် ဝဲယာရေနုတ်မြောင်း၊ ကြားဖြတ်ရေနုတ်မြောင်းများ တည်ဆောက်ခြင်း၊

(ဍ) လမ်းအကွာအဝေးပြမိုင်တိုင်များ စိုက်ထူခြင်းလုပ်ငန်း၊ လမ်းအမှတ်အသားပြတိုင်များ စိုက်ထူခြင်းလုပ်ငန်း၊

(ဎ) စီမံကိန်းလုပ်ငန်းလမ်းမကြီးနှင့် ဆက်သွယ်လမ်းများဖောက်လုပ်ခြင်း၊

(ဏ) လမ်းအခွန်ကောက်ဂိတ်များနှင့် အခြားအထောက်အကူပြုအဆောက်အဦးများ တည်ဆောက်ခြင်းလုပ်ငန်း၊

**<u>စံချိန်စံညွှန်းများ</u>**

၆။ "လုပ်ငန်းလုပ်ပိုင်ခွင့်ရသူ"သည် "လုပ်ငန်းလုပ်ပိုင်ခွင့်ပြုသူ"မှ သတ်မှတ်ထားသည့် လုပ်ငန်းစံချိန်စံညွှန်းများနှင့်ကိုက်ညီအောင် လုပ်ငန်းများကိုအကောင်အထည်ဖော် ဆောင်ရွက်ပေးရမည်။တင်ဒါစည်းကမ်းချက်စာချုပ်ပါ နောက်ဆက်တွဲ(က)တွင် ဖော်ပြထားသည့်ပစ္စည်းနှင့် လမ်း တည်ဆောက်ရေးဆိုင်ရာစည်းကမ်းချက်များကို တိကျစွာလိုက်နာဆောင်ရွက်ရမည်။ အချို့လုပ်ငန်းများ ဆောင်ရွက်ရာတွင် သတ်မှတ်ချက်များအတိုင်း ဆောင်ရွက်ရန်မဖြစ်နိုင်ပါက လိုအပ်သလို ညှိနှိုင်းဆောင်ရွက်ခွင့်ရှိသည်။

(က) <u>လမ်းမြေသား တာဘောင်ဖို့ခြင်း</u>

လမ်းမြေသားတာဘောင်ဖို့ခြင်း ဆောင်ရွက်ရာတွင် မြေသားအတွင်း သစ်ပင်သစ်ဆွေးများ ကျန်းမာရေးထိခိုက်စေနိုင်သည့် ပစ္စည်းများမပါဝင်စေရန် သတိပြုဆောင်ရွက်ရမည်။ သတ်မှတ်ထားသည့်အမြင့်နှင့် လမ်းသားပုံရရှိစေရန် ဆောင်ရွက်ပေးရမည်။ မြေသားသိပ်သည်းမှုသည် သတ်မှတ်ချက်၏ (၉၀)ရာခိုင်နှုန်းထက် မနဲစေရ၊

(ခ) <u>အောက်ခံမြေ</u>

အောက်ခံမြေသားမှာ လမ်းသားအလွှာအောက်ရှိ တူးထုတ်ထားသော (သို့မဟုတ်) ဖို့ထားသော မြေသားအလွှာဖြစ်ပါသည်။ အောက်ခံမြေသားကို သတ်မှတ်ရွေးချယ်ထားသောမြေသားဖြင့် သတ်မှတ်သိပ်သည်းမှုရရှိအောင် ကြိတ်ထားသည့် အနဲဆုံး (၁၂) လက်မ အထူရှိသည့်မြေသားအလွှာ ဖြစ်ပါသည်။ သိပ်သည်းမှုမှာ သတ်မှတ်သိပ်သည်းမှု၏ (၉၅)ရာခိုင်နှုန်း (သို့မဟုတ်) ၄င်း အထက်ရှိရမည်။ စီ-ဘီ-အာ (ရေစိမ်) တန်ဘိုးသည် (၅)ရာခိုင်နှုန်း ထက်မနဲ ရှိစေရမည်။

(ဂ) <u>ဒု–အခြေခံလွှာ</u>

ဒု–အခြေခံလွှာမှာ ဂဝံကျောက် (သို့မဟုတ်) ကျောက်ရောမြေအား (၁၄)လက်မထု သိပ်သည်းအောင် ကြိတ်ထားသော အလွှာကိုခေါ်ဆိုပါသည်။ သတ်မှတ်သိပ်သည်းမှုမှာ (၉၅) ရာခိုင်နှုန်း ရှိရမည်ဖြစ်ပြီး စီ–ဘီ–အာ(ရေစိမ်) တန်ဘိုးသည် (၃၀)ရာခိုင်နှုန်း (သို့မဟုတ်) ၄င်း အထက်ရှိရမည်။

(ဃ) <u>အခြေခံလွှာ</u>

ဒု–အခြေခံလွှာနှင့် အပေါ်မျက်နှာပြင်အကြားရှိ ကျောက်ရောမြေသား (သို့မဟုတ်) ခွဲကျောက် တို့ကို (၉)လက်မထု သိပ်သည်းလွှာရရှိအောင် ဆောင်ရွက်ရမည့်အလွှာ ဖြစ်ပါသည်။ စီ–ဘီ–အာ(ရေစိမ်) တန်ဘိုးသည် (၈၀)ရာခိုင်နှုန်း အထက်ရှိစေရမည်။

(င) <u>ကနဦးလွှာ ကတ္တရာလောင်းခြင်း</u>

ရေပိတ်လွှာကတ္တရာမလောင်းမီ လမ်းသားမျက်နှာပြင်အား ဖုန်များ၊ ရွှံ့များ၊ အမှိုက်သရိုက်များ သန့်ရှင်းအောင်ဆောင်ရွက်ရမည်။ ရေပိတ်လွှာကတ္တရာအား တင်ဒါစည်းကမ်းစာချုပ်၏ နောက်ဆက်တွဲ(က)ပါ သတ်မှတ်ချက်များအတိုင်း ဆောင်ရွက်ရမည်။

(စ) <u>နိုင်လွန်ကတ္တရာမျက်နှာပြင်လွှာခင်းခြင်း</u>

နိုင်လွန်ကတ္တရာလွှာအား ရေပိတ်လွှာကတ္တရာခင်းပြီးမှ ဆောင်ရွက်ရမည်။ လိုအပ်သည့် အရည်အသွေးများရရှိရန် နိုင်လွန်ကတ္တရာအား မာရှယ်နည်းကိုအသုံးပြု၍ ပုံစံပြုဆောင်ရွက်ရမည်။ တင်ဒါစည်းကမ်းစာချုပ် နောက်ဆက်တွဲ(က)ပါ စည်းကမ်းချက်များ အတိုင်း စက်ဖြင့် ရောစပ်ခြင်း၊ စက်ဖြင့်ခင်းခြင်းများ ဆောင်ရွက်ရမည်။

<u>လုပ်ငန်းတန်ဘိုး</u>

၇။ မန္တလေး–လားရှိုး–မူဆယ် ပြည်ထောင်စုလမ်းမကြီးစီမံကိန်း (လားရှိုး–မူဆယ်အပိုင်း မိုင်တိုင် ၁၉၂/၀ – ၂၇၄/၃) ဖွံ့ဖြိုးတိုးတက်အောင်ဆောင်ရွက်ရာ ဤရင်းနှီးမြှုပ်နှံမှုတန်ဖိုးစုစုပေါင်းမှာ မြန်မာကျပ်ငွေ ၈၂၀၀၀၀၀၀ (ကျပ်သန်းပေါင်း ရှစ်ရာနှစ်ဆယ်တိတိ)နှင့် နိုင်ငံခြားသုံးငွေ အမေရိကန်ဒေါ်လာ ၂၇၀၀၀၀၀ (အမေရိကန်ဒေါ်လာ နှစ်ဆယ့်ခုနှစ်သန်းတိတိ) ဖြစ်ပါသည်။

<u>နေ့ရက်၊ အချိန်နှင့်ကာလ</u>

၈။ အောက်ပါအတိုင်းသတ်မှတ်ပါသည်။

(က) "စတင်ဆောင်ရွက်မည့်နေ့"မှာ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်မှ ထုတ်ပေးသည့် လုပ်ငန်းစတင်ရန်အကြောင်းကြားစာကို လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှ လက်ခံရရှိသည့်နေ့ဖြစ်သည်။

(ခ) "လုပ်ငန်းကာလ" ဆိုသည်မှာ လုပ်ငန်းစတင်သည့်နေ့မှ (၃)နှစ်အထိ ဖြစ်သည်။

(ဂ) "နေ့ရက်" ဆိုသည်မှာ ပြက္ခဒိန်နေ့ရက်ဖြစ်ပြီး၊ "နှစ်" ဆိုသည်မှာ (၃၆၅)ရက် ဖြစ်သည်။

(ဃ) "အကျိုးသက်ရောက်သည့်နေ့"မှာ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏တရားဝင်ကိုယ်စားလှယ်မှ အကြောင်းကြားချက်အရ ဤပဋိညာဉ်စာချုပ် ဥပဒေအရ အကျိုးသက်ရောက်သည့် နေ့ ဖြစ်သည်။

**လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်**

၉။ အောက်ပါအတိုင်းဆောင်ရွက်ရမည် -

(က) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်သည် ဤပဋိညာဉ်စာချုပ်တွင် အသေးစိပ်ဖော်ပြထားသော ယင်း၏တာဝန်များကို ဆောင်ရွက်ရမည်။

(ခ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်သည် ဤပဋိညာဉ်စာချုပ်အရ တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်၍ဖြစ်စေ သတ်မှတ်ထားသောအခွင့်အာဏာများကိုကျင့်သုံး ဆောင်ရွက်နိုင်သည်။

(ဂ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်သည် ဥပဒေအရဖြစ်စေ၊ ရုပ်ဝတ္ထုအရဖြစ်စေ၊ ဆောင်ရွက်ရန်မဖြစ်နိုင်သည့် ကိစ္စရပ်များမှလွဲ၍ ဤပဋိညာဉ်စာချုပ်နှင့် အညီလိုအပ်သော ညွှန်ကြားချက်များပေးရမည်။

**လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏ တာဝန်များ**

၁၀။ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ပဋိညာဉ်စာချုပ်ပါအချက်များနှင့်အညီ လုပ်ငန်းအတိုင်းအတာပမာဏကိုဆောင်ရွက်ရန်နှင့် ပုံစံပြုခြင်း၊ လုပ်ငန်းအကောင်အထည်ဖော်ခြင်း၊ လုပ်ငန်းပြီးစီးအောင်ဆောင်ရွက်ခြင်းနှင့် ပဋိညာဉ်စာချုပ်ပါအချက်များနှင့်အညီ ပျက်ကွက်မှုတစ်စုံတစ်ရာအတွက် ပြင်ဆင်မှုပြုခြင်းတို့ကို သဘောတူညီပြီးဖြစ်သည့်အတိုင်း ဆောင်ရွက်ရမည်။

(ခ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ကြီးကြပ်သူအလုပ်သမား၊ စက်ရုံ၊ အလုပ်ရုံပစ္စည်းများ၊ ကိရိယာတန်ဆာပလာ၊ ယာယီလုပ်ငန်းများနှင့် အခြားလိုအပ်သောအရာဝတ္ထုများကို ဖြည့်ဆည်းထောက်ပံ့ရမည့်အပြင် ပုံစံပြုပြင်ခြင်းလုပ်ငန်း အကောင်အထည်ဖော်ခြင်း ပြီးဆုံးအောင်ဆောင်ရွက်ခြင်းနှင့် ပျက်ကွက်မှုအတွက်ပြင်ဆင်မှုပြုပေးခြင်း စသည်တို့ကို ဆောင်ရွက်ရမည်။

(ဂ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ယင်း၏ထိန်းချုပ်မှုအောက်ရှိ ဆောက်လုပ်ရေးစခန်းအားလုံးနှင့်လုပ်ငန်းများအားလုံးရှိ လုပ်ငန်းခွင်နေရာများအားလုံးလောက်မှု၊ တည်ငြိမ်မှုနှင့် ဘေးအန္တရာယ်ကင်းရှင်းစေမှုတို့အတွက် အပြည့်အဝတာဝန်ယူရမည်။

(ဃ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ပြည်တွင်းမှ ဝန်ထမ်းများ အလုပ်သမားများ၊ ယင်းတို့၏ လုပ်ခ၊ နေအိမ်၊ အစားအသောက်နှင့် သယ်ယူပို့ဆောင်ရေးတို့ကို ယင်း၏ကိုယ်ပိုင်အစီအစဉ်ဖြင့် ဆောင်ရွက်ပေးရမည်။ ထို့ပြင် လုပ်ငန်းဆောင်ရွက်ရန်အတွက် လိုအပ်ပါက ဝန်ထမ်း၊ လက်မှုပညာသည်နှင့် အလုပ်သမားများကို ပြည်ပမှခေါ်ယူခန့်ထားနိုင်သည်။

(င) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ဝန်ထမ်းနှင့် အလုပ်သမားများ၏ ကျန်းမာရေးနှင့်ဘေးအန္တရာယ်ကင်းရှင်းရေးတို့အတွက် ကာကွယ်မှုအစီအစဉ်များ ပြုလုပ်ပေးရမည်။

(စ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ပုံစံပြုဆောင်ရွက်စဉ်နှင့် လုပ်ငန်းအကောင်အထည်ဖော်စဉ်အတွင်း လိုအပ်သော ကြီးကြပ်ကွပ်ကဲမှုများကို လုပ်ငန်းအပြီးသတ်ဆောင်ရွက်ပြီးစီးမှုလက်မှတ် ( **Final Completion Certificate** ) ရရှိသည်အထိ ပြုလုပ်ပေးရမည်။

(ဆ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ပြည်ပမှအလုပ်သမားများ မြန်မာနိုင်ငံတွင် ရှိနေစဉ်အတွင်း မြန်မာနိုင်ငံ၏ဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းများကိုလေးစားလိုက်နာရန်နှင့် မြန်မာနိုင်ငံ၏ပြည်တွင်းရေးတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် တာဝန်ယူရမည်။

(ဇ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ပစ္စည်း၊ ထုတ်ကုန် သို့မဟုတ် ကိရိယာ တန်ဆာပလာများဝယ်ယူမှုအတွက် တစ်ဆင့်ခံလုပ်ငန်း လုပ်ကိုင်ခွင့်ရသူတစ်ဦး သို့မဟုတ် အများကို လွှတ်လပ်စွာပြောင်းလဲနိုင်သည်။ တစ်ဆင့်ခံလုပ်ငန်း လုပ်ကိုင်ခွင့်ရသူ အားလုံးသည် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏ အမည်ကိုသာရယူရမည့်အပြင် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ သဘောတူညီချက်နှင့်အညီ ဖြစ်ရမည်။

(ဈ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လမ်းနှင့် တံတားများ၏ပုံစံအတွက် အဆိုပြုချက်တင်သွင်းရမည်။ သို့ရာတွင် ယင်းတို့သည် အသေးစိပ်ဖော်ပြချက်ပါ လိုအပ်ချက်များထက်အဆင့်မနိမ့်စေရ။ အဆိုပြုချက် အသစ်တင်ပြရန်လိုအပ်လာပါက အဆိုပြုချက်အသစ်အရဆောင်ရွက်ရာတွင် ဆောက်လုပ်မည့် အချိန်ဇယားသည် နောက်ကျခြင်းမရှိစေရ။

(ည) မြေတိုင်းသည့်မြေပုံတွင်ဖော်ပြထားသည့် လမ်း၏လမ်းအူကြောင်းကို လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ခွင့်ပြုချက်ဖြင့် လိုအပ်သလိုပြင်နိုင်သည်။

(ဋ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု (လုပ်ငန်းခွင်နေရာအတွင်းနှင့်အပြင်) အတွက် လုပ်ငန်းဆောင်ရွက်မှုကြောင့် လေထု၊ ရေနှင့် မြေအား

ညစ်ညမ်းမှုနှင့် သဘာဝပတ်ဝန်းကျင် အခြေအနေယုတ်လျော့မှုမရှိအောင် ထိန်းသိမ်းရန် အများပြည်သူနှောင့်ယှက်မှု မရှိစေရန်တို့အတွက် လိုအပ်သောအစီအမံများချမှတ်ဆောင်ရွက်ပေးရမည်။

(ဌ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် အထူးအကြောင်းကိစ္စရပ်များကြောင့် သတ်မှတ်ချိန်အတွင်း လုပ်ငန်းကိုပြီးစီးအောင်မဆောင်ရွက်နိုင်လျှင် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံ စာဖြင့်ရေးသား၍တောင်းဆိုမှုပြုနိုင်သည်။ ယင်းတောင်းဆိုချက်တွင် လုပ်ငန်းပြီးစီးအောင်ဆောင်ရွက်မှုအတွက် အသေးစိပ်အချက်အလက်များနှင့် အချိန်တိုးမြှင့်ပေးရန်အတွက် အသေးစိပ်အကြောင်းပြချက်များပါဝင်ရမည်။ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် ယင်းတင်ပြချက် အထောက်အထားများအပေါ်အခြေပြု၍ အချိန်တိုးပေးရန်စဉ်းစားမည်။

(ဍ) လမ်းဖြတ်သန်းသွားလာခွင့်အတွင်း လုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် သစ်တောဥပဒေပါ ပြဋ္ဌာန်းချက်များကို လိုက်နာရမည်။

(ဎ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ခွင့်ပြုချက်မရဘဲ လုပ်ငန်းကို လွှဲပြောင်းခြင်း၊ လုပ်ငန်းတစိတ်တဒေသကို ထပ်ဆင့်ငှားရမ်းခြင်းမပြုရ။

(ဏ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏တရားဝင်ကိုယ်စားလှယ်ထံမှ လုပ်ငန်းစတင်ရန်အကြောင်းကြားချက်ရရှိသည်နှင့် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လမ်းပန်းဆက်သွယ်မှု ပြတ်တောက်ခြင်းမရှိစေရန်အတွက် လုပ်ငန်းစီမံကိန်းနယ်နမိတ်အတွင်းရှိ လမ်းနှင့် တံတားများကို ကောင်းစွာထိန်းသိမ်းထားရှိရမည်။ ထို့အပြင် လုပ်ငန်းဆောင်ရွက်သည့်ကာလ အနှစ်(၃၀) အတွင်း လမ်းများ၊ တံတားများကို ကောင်းမွန်သော အနေအထားရှိစေရန် အစဉ်ပြုပြင် ထိန်းသိမ်းရေးလုပ်ငန်းများကိုလည်း လုပ်ငန်းလုပ်ကိုင်ခွင့်ရသူကဆောင်ရွက်ရမည်။

(တ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ ခွင့်ပြုချက်မရဘဲ လမ်းတံတားအသုံးပြုခကောက်ခံရာဂိတ်များနှင့် ကောက်ခံသည့် နှုန်းထားများကို ပြောင်းလဲခြင်းမပြုရ။

(ထ) စတင်ကောက်ခံသည့် ပထမ(၃)နှစ်ကာလအတွက် လမ်းဖြတ်သန်းခမှ နိုင်ငံတော်သို့ ပေးသွင်းခြင်းကို ကင်းလွတ်ခွင့်ပြုသည်။

(ဒ) ကောက်ခံရရှိသည့် လမ်းအသုံးပြုခကောက်ခံရငွေစုစုပေါင်းမှ အောက်ဖော်ပြပါ ရာခိုင်နှုန်းအတိုင်း နှစ်သက်တမ်းအလိုက် နိုင်ငံတော်သို့ပေးသွင်းရမည်။

| | | |
|---|---|---|
| ၄ နှစ်မြောက်မှ ၁၃ နှစ်မြောက်ထိ | (၁၀နှစ်) | ၁၀% |
| ၁၄ နှစ်မြောက်မှ ၂၃ နှစ်မြောက်ထိ | (၁၀နှစ်) | ၂၀% |
| ၂၄ နှစ်မြောက်မှ ၃၀ နှစ်မြောက်ထိ | ( ၇နှစ်) | ၃၀% |

(ဓ) ညှိနှိုင်းထားသော ကောက်ခံနှုန်းထားများအတိုင်း လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှကောက်ခံရာတွင် အကျိုးအမြတ်မရရှိမှု အရှုံးပေါ်မှုများရှိလာပါက ကောက်ခံသည့်လမ်းဖြတ်သန်းခနှုန်းထားများကို ညှိနှိုင်းပြင်ဆင်ရန်အတွက် တင်ပြခွင့်ရှိသည်။

(န) ခွင့်ပြုထားသော လမ်းဖြတ်သန်းခ ကောက်ခံသည့်ကာလ နှစ်(၃၀)ပြည့် ပြီးနောက် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှ အကျိုးအမြတ်မရရှိခဲ့လျှင်သော်၄င်း ဆက်လက်ဆောင်ရွက်လိုလျှင်သော်၄င်း၊ ကောက်ခံမှုသက်တမ်းကာလကို ငါးနှစ်(၂)ကြိမ် သက်တမ်းတိုးမြှင့်၍ ကောက်ခံခွင့်ရရှိရေးအတွက်တင်ပြနိုင်သည်။

(ပ) လမ်းဖြတ်သန်းခစတင်ကောက်ခံသည့် ပထမ(၃)နှစ်ကာလအတွက်အမြတ်ခွန်စည်းကြပ်မှု ကင်းလွတ်ခွင့်ပြုမည်ဖြစ်ပြီး၊ ယင်းနောက်ပိုင်းသင့်တော်သောနှုန်းဖြင့် အမြတ်ခွန်စည်းကြပ်ကောက်ခံသွားမည်ဖြစ်ပါသည်။

<u>လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တာဝန်များ</u>

၁၁။ အောက်ပါအတိုင်းဖြစ်ပါသည် -

(က) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှ ပဋိညာဉ်စာချုပ်ပါလုပ်ငန်းများ ဆောင်ရွက်နိုင်ရန်နှင့် ဥပဒေနှင့်အညီ စီးပွားရေးလုပ်ငန်းများ ဆောင်ရွက်နိုင်ရန် လိုအပ်သောခွင့်ပြုမိန့်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှရရှိရန် ပံ့ပိုးကူညီဆောင်ရွက်ပေးရမည်။

(ခ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် လုပ်ငန်းစီမံကိန်းအတွက်လိုအပ်သော သက်ဆိုင်ရာဝန်ကြီးဌာနများ၊ အစိုးရဌာနများ၏အတည်ပြုချက် သဘောတူညီချက်များရရှိအောင်ဆောင်ရွက်ပေးရမည်။

(ဂ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည်ဆိုခဲ့သည့် လုပ်ငန်းစီမံကိန်းအတွက်အဆိုပြုထားသောလမ်းဖြောင့်တန်းမှုအတိုင်းရရှိစေရန် ဖြည့်ဆည်းဆောင်ရွက်ပေးရမည်။

(ဃ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် လုပ်ငန်းစီမံကိန်း၏ အပြီးသတ်ဆောင်ရွက်ပြီးစီးမှုလက်မှတ် ( Final Completion Certificate ) ကို လုပ်ငန်းလုပ်ကိုင်ခွင့်ရသူအားထုတ်ပေးရမည်။

<u>လုပ်ငန်းအကောင်အထည်ဖော်ရန် တာဝန်ယူသည့် ဘဏ်အာမခံ</u>

၁၂။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် စာချုပ်ချုပ်ဆိုပြီး(၂၈)ရက်အတွင်း ရင်းနှီးမြှုပ်နှံမှုကုန်ကျစရိတ်၏ ၁% နှင့်ညီမျှသောငွေကို ပြည်ထောင်စုမြန်မာနိုင်ငံအတွင်းရှိ တရားဝင်ခွင့်ပြုထားသော ဘဏ်တစ်ခုခုမှ ထုတ်ပေးသည့် ကြိုတင်စည်းကမ်းချက်များမပါရှိဘဲ ပြန်လည်ရုတ်သိမ်းနိုင်ခွင့်မရှိသော လုပ်ငန်း အကောင်အထည်ဖော်ရန် တာဝန်ယူသည့်ဘဏ်အာမခံကို လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံသို့

ထုတ်ပေးရမည်။ အဆိုပါဘဏ်အာမခံ၏သက်တမ်းသည် စတင်ထုတ်ပေးသည့်နေ့မှ လုပ်ငန်းပြီးဆုံး အောင်ဆောင်ရွက်သည်အထိဖြစ်သည်။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းစတင်ရန် အကြောင်း ကြားစာရပြီး (၃၀)ရက်အတွင်း လုပ်ငန်းစတင်ရန် ပျက်ကွက်လျှင်သော်လည်းကောင်း၊ (၃၆)လအတွင်း လုပ်ငန်းကိုပြီးစီးအောင်ဆောင်ရွက်ရန်အပါအဝင် စာချုပ်ပါစည်းကမ်းချက်များကို လိုက်နာရန်ပျက်ကွက် ပါက ဘဏ်အာမခံငွေကိုလုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူက သိမ်းယူရမည်။ ဘဏ်အာမခံကိုလုပ်ငန်း အပြီး သတ်ဆောင်ရွက်ပြီးစီးမှု လက်မှတ်ထုတ်ပေးပြီး ရက်ပေါင်း(၃၀)အတွင်း လုပ်ငန်းလုပ်ကိုင်ခွင့်ရသူထံ ပြန်လည်ထုတ်ပေးရမည်။ဘဏ်အာမခံပုံစံသည် နောက်ဆက်တွဲ ( )ပါအတိုင်း ဖြစ်သည်။

<u>လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏ တရားဝင်ကိုယ်စားလှယ်</u>

၁၃။ အောက်ပါအတိုင်းဆောင်ရွက်ရမည်။

(က) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် တရားဝင်ကိုယ်စားလှယ်ခန့်ရန် ရည်ရွယ်သူ(များ)၏ အမည်၊ ကိုယ်ရေးအချက်အလက်များကို လုပ်ငန်းစတင်ရန်အကြောင်းကြားစာထုတ်ပေး သည့်နေ့မှ (၁၄)ရက်အတွင်း လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံ တင်ပြရမည်။

(ခ) ယင်းကိုယ်စားလှယ်သည် ဆောက်လုပ်ရေးနှင့်သက်ဆိုင်သည့် အထောက်အထားများ ပြင်ဆင်ထားရှိခြင်း လုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်ခြင်းများကို အချိန်ပြည့် ဆောင်ရွက်ပေးရမည်။

(ဂ) ယင်းကိုယ်စားလှယ်သည် လုပ်ငန်းခွင်မှပျက်ကွက်သည့်အခါ သင့်တော်သူတစ်ဦးကို အစားထိုးခန့်ထားပြီးနောက် အစားထိုးခန့်ထားကြောင်းကို လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ ၏ ကိုယ်စားလှယ်ထံ အကြောင်းကြားရမည်။

<u>တဆင့်ခံလုပ်ငန်း လုပ်ကိုင်ခွင့်ပြုခြင်း</u>

၁၄။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းတစ်ခုလုံးအား တဆင့်ခံလုပ်ကိုင်ခွင့်မပြုရ လုပ်ငန်း တစိတ်တဒေသကိုမူ တဆင့်ခံလုပ်ကိုင်ခွင့်ပြုနိုင်သည်။ ယင်းသို့တဆင့်ခံလုပ်ကိုင်ခွင့်ရသူက ပဋိညာဉ် စာချုပ်ပါစည်းကမ်းချက်များကိုလိုက်နာစေရန် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူက တာဝန်ယူရမည်။ လုပ်ငန်း တစ်ဆင့်ခံလုပ်ကိုင်ခွင့်ရသူ သို့မဟုတ် ယင်း၏ တရားဝင်ကိုယ်စားလှယ် သို့မဟုတ် အလုပ်သမား၏ ပြုလုပ်မှု သို့မဟုတ် ပျက်ကွက်မှုသည် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏ ပြုလုပ်မှု သို့မဟုတ် ပျက်ကွက်မှု ကဲ့သို့ ယင်းတွင်တာဝန်ရှိစေရမည်။

<u>လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှု</u>

၁၅။ အောက်ပါအတိုင်းတင်ပြရန်ဖြစ်ပါသည် -

က) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းအစီအစဉ်ကို လုပ်ငန်းစတင်သည့်နေ့မှ (၂)လ အတွင်း လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံ တင်သွင်းရမည်။

(ခ) လစဉ်တိုးတက်မှုအစီရင်ခံစာ (နှစ်ဘက်သဘောတူ၍ လက်မှတ်ထိုးထားသည့်ပုံစံဖြင့်) ကို မိတ္တူ(၆)စုံပြုစုပြီး လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ ကိုယ်စားလှယ်မှတဆင့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံ တင်သွင်းရမည်။

<u>စစ်ဆေးခြင်း</u>

၁၆။ လုပ်ငန်းဆောင်ရွက်ရာ၌ လိုအပ်သောအလုပ်သမား၊ ပစ္စည်းများ၊ လျှပ်စစ်၊ လောင်စာ၊ သိုလှောင်ခန်းများ၊ စက်ပစ္စည်းကိရိယာများ၊ တန်ဆာပလာများနှင့် လုပ်ငန်းဆောင်ရွက်မှု အစရှိသည်တို့ကို လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူက လိုအပ်သလိုထိရောက်စွာစစ်ဆေးရန်နှင့် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ အထောက်အပံ့ပြုရန်အတွက် စာရွက်စာတမ်းအထောက်အထားများ၊ သတင်းအချက်အလက်များကို ဖြည့်ဆည်းဆောင်ရွက်ပေးရမည်။ လမ်းဖောက်လုပ်ပြုပြင်ခြင်းလုပ်ငန်း ပြီးဆုံး၍ လုပ်ငန်းစတင်ဆောင်ရွက်သည့်အချိန်မှစ၍ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ကောက်ခံရရှိသောလမ်းဖြတ်သန်းခငွေများနှင့် စပ်လျဉ်းသည့်စာရင်းအင်းများ အပြည့်အစုံစနစ်တကျထားရှိရမည်။ အဆိုပါ စာရင်းအင်းများ ကို လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူက အခါအားလျော်စွာ စစ်ဆေးခွင့်ရှိရမည်။

<u>ကန့်ကွက်ခြင်း</u>

၁၇။ စစ်ဆေးတွေ့ရှိချက်များအရ အဆိုပါ စက်ရုံ၊ အလုပ်ရုံ၊ ပစ္စည်းများ၊ ပုံစံထုတ်ခြင်း သို့မဟုတ် ကျွမ်းကျင်မှုလက်ရာများနှင့်စပ်လျဉ်း၍ ချို့ယွင်းမှု သို့မဟုတ် ပဋိညာဉ်စာချုပ်နှင့် မကိုက်ညီမှုတွေ့ရှိရပါက လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်က ကန့်ကွက်နိုင်သည့်အပြင် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူထံ ချက်ချင်းအကြောင်းကြားရမည်။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ချို့ယွင်းချက်ကို ကောင်းစွာပြန်လည်ဆောင်ရွက်ပေးရန်နှင့် ကန့်ကွက်ခံရသည့်ပစ္စည်းများကို ပဋိညာဉ်စာချုပ်နှင့်အညီ ဖြစ်စေရန် တာဝန်ယူရမည်။

<u>မလွန်ဆန်နိုင်သော ဖြစ်ရပ်များ</u>

၁၈။ စာချုပ်ဝင်တစ်ဖက်ဖက်သည် မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ဤပဋိညာဉ်စာချုပ်အရဆောင်ရွက်ရမည့် တာဝန်များကိုဆောင်ရွက်ရန် သို့မဟုတ် အခြားတစ်ဖက်ဖက်၏ဆောင်ရွက်မှုကို လက်ခံရန် လုံးဝဖြစ်စေ၊ တစိတ်တဒေသဖြစ်စေ ယာယီအားဖြင့် လုပ်ဆောင်နိုင်စွမ်းမရှိလျှင် ထိုသို့လုပ်ဆောင်နိုင်စွမ်းမရှိသည့်ဖက်မှ မလွန်ဆန်နိုင်သောဖြစ်ရပ်၏ အသေးစိပ်အကြောင်းအရာဖော်ပြလျက် လုပ်ဆောင်နိုင်စွမ်းမရှိသော ဖြစ်ရပ်ပေါ်ပေါက်သည့် (၁၄)ရက်အတွင်း အခြားတစ်ဖက်သို့ အကြောင်းကြားစာပေးပို့ရမည်။

၁၉။ မလွန်ဆန်နိုင်သောဖြစ်ရပ်၏ အကျိုးသက်ရောက်မှုခံရသည့် တစ်ဦးတံဖက်၏တာဝန်များကို အခြားတဖက်၏အတည်ပြုချက်ဖြင့် ထိုသို့မစွမ်းဆောင်နိုင်မှု ဖြစ်ပေါ်လာသည့်ကာလအတွင်း (ထိုကာလထက် လုံးဝမကျော်လွန်စေဘဲ) ရပ်ဆိုင်းထားရမည်။ ထို့ပြင် ထိုသို့မစွမ်းဆောင်နိုင်မှုဖြစ်ပေါ်ရသည့်အကြောင်းရင်းကို ဖြစ်နိုင်သမျှဆောလျင်စွာဖယ်ရှားပစ်ရမည်။

၂၀။ "မလွန်ဆန်နိုင်သောဖြစ်ရပ်" ဆိုသည်မှာ သဘာဝဘေးအန္တရာယ်များ၊ အစိုးရတားမြစ်ချက်၊ သပိတ်မှောက်ခြင်းများ၊ သောင်းကျန်းမှုများ၊ အဓိကရုဏ်းများ၊ ရောဂါဘယကျရောက်ခြင်း၊ ပြည်သူတို့၏ နှောင့်ယှက်ရန်ပြုမှုများ၊ ပေါက်ကွဲမှုများ၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မြေငလျင်လှုပ်ခြင်း၊ မုန်တိုင်း ကျရောက်ခြင်းနှင့် တစ်ဦးဦးက ထိန်းချုပ်နိုင်စွမ်းမရှိသော၊ ထိုက်သင့်သောဂရုပြုမှု၊ ဝီရိယစိုက်ထုတ်မှု ပြုလျက်နှင့် တစ်ဦးဦးကကျော်လွှားနိုင်ခြင်းမရှိသော ဖော်ပြခဲ့ပြီးသည့်အလားတူ အကြောင်းတစ်ရပ် ရပ်ကို ဆိုလိုသည်။

<u>ပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်း</u>

၂၁။ ပဋိညာဉ်စာချုပ်ကို အောက်ပါအကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်ပါက ရပ်စဲနိုင်သည် -

(က) စာချုပ်ဝင်တစ်ဦးဦးမှ ပဋိညာဉ်စာချုပ်ပါ တာဝန်များကို မဆောင်ရွက်နိုင်လျှင်

(ခ) စာချုပ်ဝင်တစ်ဦးဦးမှ ပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်တစ်စုံတစ်ရာကို ချိုးဖောက် လျှင်၊

(ဂ) ကြိုတင်မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုနိုင်သောဖြစ်ရပ်များသည် (၆)လ ဆက်တိုက်ပေါ်ပေါက်လျှင်၊

(ဃ) စာချုပ်ကို ရပ်စဲရန် နှစ်ဦးနှစ်ဘက် သဘောတူလျှင်၊

<u>အာမခံချက်</u>

၂၂။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် နောက်ဆက်တွဲ( )ပါ တင်ဒါစာအုပ်တွင် အသေးစိပ် ဖော်ပြထားချက်များနှင့်အညီ စာချုပ်ပါလုပ်ငန်းများကို ပြီးဆုံးအောင်ဆောင်ရွက်ရန် အာမခံပါသည်။ ယင်းအာမခံသည့် စာချုပ်ပါလုပ်ငန်းများ ပြီးစီးအောင်ဆောင်ရွက်ပြီးနောက် (၁၂)လထိ တရားဝင်စေရ မည်။

<u>ပြောင်းလဲခြင်းများ</u>

၂၃။ ပြောင်းလဲခြင်းများကို လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်မှ ပဋိညာဉ်စာချုပ် သက်တမ်းကာလအတွင်း "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" အား အဆိုပြုလွှာတင်သွင်းခိုင်း၍ဖြစ်စေ၊လိုအပ် သည့် ညွှန်ကြားချက်များ ထုတ်ပြန်၍ဖြစ်စေ၊ အခါအားလျော်စွာ ဆောင်ရွက်ပိုင်ခွင့်ရှိသည်။ လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်မှ လုပ်ငန်းပြောင်းလဲရန် အဆိုပြုလွှာ တင်သွင်းခိုင်း သော်လည်း ၄င်းပြောင်းလဲသည့် လုပ်ငန်းအား ချက်ခြင်းဆောင်ရွက်စေခြင်း မပြုစေရပါ။

၂၄။ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" အနေဖြင့် လုပ်ငန်းကို ပိုမိုကောင်းမွန်အောင် ပုံစံပြုပြောင်းလဲ ဆောင်ရွက်ခြင်းလုပ်ငန်းကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ တရားဝင်ကိုယ်စားလှယ်ထံမှ အတည်ပြု ခြင်း ဆောင်ရွက်ရန် တစ်စုံတစ်ရာညွှန်ကြားချက်များမရရှိမီ ဆောင်ရွက်ခြင်းမပြုရပါ။

၂၅။ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်မှ လုပ်ငန်းပြောင်းလဲဆောင်ရွက်ရန်အဆို ပြုလွှာတင်သွင်းရန် တောင်းဆိုလာပါက "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" အနေဖြင့် အောက်ဖော်ပြပါ အတိုင်း ဆောင်ရွက်ရမည်။

(က) ပြောင်းလဲအဆိုပြုမည့် လုပ်ငန်းအမျိုးအစားအလိုက် အသေးစိတ်ပုံစံပြုလွှာ လုပ်ငန်းအစီ အစဉ်နှင့် လုပ်ငန်းစီမံချက်များ ရေးဆွဲတင်ပြရမည်။

(ခ) လိုအပ်သောအသစ်ပြုပြင်ရေးဆွဲထားသည့် လုပ်ငန်းစီမံချက်အတွက် လုပ်ငန်းလုပ်ကိုင် ခွင့်ရသူ၏ အဆိုပြုလွှာ ရေးဆွဲတင်ပြခြင်း။

၂၆။ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်အနေဖြင့် အဆိုပြုလွှာလက်ခံရရှိပြီး နောက် (၁၄)ရက်အတွင်း အတည်ပြုအမိန့်များ သို့မဟုတ် ကန့်ကွက်လွှာများ သို့မဟုတ် ဆောင်ရွက် ခိုင်းသည့်အမိန့်များ ထုတ်ပြန်ပေးရမည်။

၂၇။ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်သည် မိမိညွှန်ကြားသည့် မည်သည့် လုပ်ငန်းပြောင်းလဲခြင်းမဆို လုပ်ငန်းလုပ်ကိုင်ခွင့်ရသူအတွက် အပိုကုန်ကျစရိတ်ငွေများ မရှိစေရန် အထူးသတိထားဆောင်ရွက်ရမည်။ မည်သည့်လုပ်ငန်း ပြောင်းလဲခြင်းမှ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တည်ပြုချက်မရယူပဲ ညွှန်ကြားစေခိုင်းခြင်း မပြုရပါ။

၂၈။ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏တရားဝင်ကိုယ်စားလှယ်သည် လုပ်ငန်းပြောင်းလဲခြင်းအားအတည် ပြုပြီး သို့မဟုတ် ဆောင်ရွက်ရန်ညွှန်ကြားပြီးတိုင်း ပဋိညာဉ်စာချုပ်ပါ သတ်မှတ်ကာလအား ပြန်လည် ပြင်ဆင်သတ်မှတ်ရန် ဆုံးဖြတ်ချက် သို့မဟုတ် သဘောတူညီချက်ရရှိအောင် ဆက်လက်ဆောင်ရွက် ပေးရမည်။

<u>လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏ ပျက်ကွက်မှု</u>

၂၉။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ယင်း၏ တာဝန်ဝတ္တရားများကိုဆောင်ရွက်ရန် ပျက်ကွက်လျှင် ဖြစ်စေ စာချုပ်ပါလုပ်ငန်းကို ဆောင်ရွက်ခြင်းမပြုလျှင်ဖြစ်စေ၊ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ ကိုယ်စား လှယ်သည် အဆိုပါ ပျက်ကွက်မှုအတွက် သင့်တင့်လျောက်ပတ်သောအချိန်အတွင်း အကောင်းဆုံး ပြန်လည်ဆောင်ရွက်ပေးရန်နှင့် ပြုပြင်ပေးရန် အကြောင်းကြားစာ ပေးပို့နိုင်သည်။

၃၀။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် စာချုပ်တွင်သတ်မှတ်ထားသော ကာလအတွင်း စာချုပ်ပါ လုပ်ငန်းကိုပြီးစီးအောင် ဆောင်ရွက်နိုင်ခြင်းမရှိပါက လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏ လုပ်ငန်းမပြီးစီးသည့် လုပ်ငန်းဆောင်ရွက်မှုများအပေါ် စီစစ်၍ ထပ်မံလုပ်ခွင့်ပေးရန်မသင့်ဟုယူဆပါက စာချုပ်ပါလုပ်ငန်း အား လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူမှ သိမ်းယူခွင့်ရှိသည်။

<u>အာမခံထားရှိခြင်း</u>

၃၁။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် မြန်မာနိုင်ငံသားများရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် လုပ်ထုံး လုပ်နည်းများ မြန်မာ့အာမခံဥပဒေနှင့် လုပ်ထုံးလုပ်နည်းများပါ ပြဋ္ဌာန်းချက်များနှင့်အညီ လုပ်ငန်းစီမံကိန်းအတွက် လိုအပ်သော အာမခံအရပ်ရပ်ကို ထားရှိဆောင်ရွက်ရမည်။

<u>ပဋိညာဉ်ပြီးဆုံးခြင်း</u>

၃၂။ ပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ စာချုပ်ပါလုပ်ငန်းကို လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှ အပြည့်အဝပြီးဆုံးအောင် ဆောင်ရွက်ပြီးစီးသည့်အခါမှသာ ပဋိညာဉ်ပြီးဆုံးသည်ဟု မှတ်ယူရမည်။

<u>လွှဲပြောင်းပေးအပ်ခြင်း</u>

၃၃။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်အရ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသည့်ကာလ အနှစ်(၃၀) သို့မဟုတ် လုပ်ငန်းဆက်လက်လုပ်ကိုင်ရန် နောက်ထပ်တိုးမြှင့်သောကာလများပြီးဆုံးပါက အဆိုပါ လမ်းနှင့်တံတားများ ဂိတ်များနှင့်အဆောက်အဦများကို လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူအား အဖိုးစားနား တစ်စုံတစ်ရာမရှိဘဲ ကောင်းမွန်သောအနေအထားအတိုင်း လွှဲပြောင်းပေးရမည်။

<u>ဆက်သွယ်ရန် လိပ်စာများ</u>

၃၄။ ပဋိညာဉ်စာချုပ်ဝင်များအကြား စာဖြင့်ရေးသားဆက်သွယ်ရန်လိပ်စာမှာ အောက်ပါအတိုင်းဖြစ်သည် -

ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
အမှတ်(၆၀)၊ ရွှေတိဂုံဘုရားလမ်း၊
ဒဂုံမြို့နယ်၊ ရန်ကုန်မြို့

နှင့်

အေးရှားဝေါ(လ်)ကုမ္ပဏီလီမိတက်
အမှတ်(၆၁-၆၂)၊ ဝါးတန်းလမ်း၊
ဗဟိုစည်အိမ်ယာစီမံကိန်း၊ လမ်းမတော်မြို့နယ်၊
ရန်ကုန်မြို့။

<u>စာချုပ်အသက်ဝင်သည့်နေ့</u>

၃၅။ ဤစာချုပ်သည် နှစ်ဦးနှစ်ဘက် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အသက်ဝင်အတည်ဖြစ်သည်။ သက်သေထင်ရှားစိမ့်သောငှာ စာချုပ်ချုပ်ဆိုရာတွင် ပါဝင်သူများသည် အထက်ဖော်ပြပါ ( )ရက်၊ ( ) လ၊ ( ) ခုနှစ် တို့တွင် ဤစာချုပ်ကို လက်မှတ်ရေးထိုးကြပါသည်။

| | |
|---|---|
| ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း<br>အတွက်နှင့် လက်မှတ်ရေးထိုးသူ | အေးရှားဝေါ(လ်)ကုမ္ပဏီအတွက်<br>နှင့်ကိုယ်စားလက်မှတ်ရေးထိုးသူ |
| ( )<br>ဦးဆောင်ညွှန်ကြားရေးမှူး | ( )<br>မန်းနေးဂျင်းဒါရိုက်တာ |

<u>သက်သေများ</u>

| | |
|---|---|
| အမည် ... . . . . . . . . . . . .<br>ရာထူး . . . . . . . . . . . . . . | အမည် ... . . . . . . . . . . .<br>ရာထူး . . . . . . . . . . . . . |

(၂၇.၁၂.၉၆) ၂၁/၉၆ [illegible]

[illegible]



| စဉ် | ဆွေးနွေးချက်နှင့်ညှိနှိုင်း ဆုံးဖြတ်ချက် | ဆောင်ရွက်ရန် / သိသာရန် |
|---|---|---|
| ၁ | ၂ | ၃ |
| ၁၇။ | အေးရှားဝါး လ်ကုမ္ပဏီလီမိတက်၏လား ရှိုး - မူဆယ်ကား လမ်း အား ပြုပြင် ဖောက်လုပ်သည့် ဆောက်မှုတွင်အသုံး ပြုရန်စက်ပစ္စည်း များ ထပ်မံ၍တိုး မြှင့် ဝယ်ယူတင်သွင်း ခွင့်ပြုပါရန်ကိစ္စ။ | |
| | တွဲဖက်အတွင်း ရေး မှူး ဦး မောင် မောင် ရဲက အေးရှား ဝါး လ်ကုမ္ပဏီလီမိတက်၏လား ရှိုး - မူဆယ်ကား လမ်း အား ပြုပြင် ဖောက်လုပ် သည့် ဆောက်မှုလုပ်ငန်း တွင်လက် တွေ့လုပ်ငန်း ဆောင် ရွက်ရာ၌ ခွင့်ပြုခဲ့ သော စက်ပစ္စည်း များ နှင့်မလုံ လောက်ပါသဖြင့်ထပ်မံ၍ လိုအပ် သောအ မေရိကန်ဒေါ် လာ ၄၀၀၀၀၀တန်ဖိုး ရှိစက်ပစ္စည်း များ ကိုတင်သွင်း ခွင့်ပြုပါရန်တင်ပြလာ ခြင်း ဖြစ်ပါကြောင်း ၊ မူလရင်း နှီး ငွေဖြစ် သောနိုင်ငံခြား ချေး ငွေအမေ ရိကန် ဒေါ်လာ ၂၇သန်း အတွင်းမှဝယ်ယူတင်သွင်း မည်ဖြစ်ပါ၍ ငွေသားအနေ ဖြင့် လျော့နည်း သွား ပြီး စက်ပစ္စည်း တန်ဖိုး တွင်သာအ ပြောင်း အလဲ ရှိပါ ကြောင်း ၊ ၄င်း တွင် Pajero (၅) စီးပါဝင်ပါကြောင်း တင်ပြပါသည်။ | |
| | ဘဏ္ဍာ ရေး နှင့်အခွန်ဝန်ကြီး ဌာန၊ ဝန်ကြီးရုံး မှူးချုပ် ဝင်း တင်ကပွင့်လင်း ရာသီအတွင်း လုပ်ငန်း ကိုအပြီး လုပ်ရန်ရှိသဖြင့်လမ်း ခရီး မှာကြမ်း တမ်း သဖြင့် Pajero အမျိုး အစား မော် တော်ယာဉ် အနည်း ဆုံး (၄) စီး လိုအပ်မည်ဖြစ်ပါကြောင်း ပြောကြား ပါသည်။ | |
| | ဒုတိယဝန်ကြီး ချုပ်၊ ဒုတိယ ဗိုလ်ချုပ်ကြီးမောင် မောင်ခင် ကလမ်း ဖောက်လုပ်မှုကုန်ကျစရိတ်အ နေဖြင့် (၆) လမ်း သွား တစ်မိုင်လျှင်အ နည်း ဆုံး အ မေရိကန် ဒေါ်လာ ၂သန်း မှ ၃သန်း အထိရှိပါကြောင်း၊ လုပ်ငန်း အတွက်ထရပ်ကား (၄) စီး တင်သွင်း ရန်ပါရှိ ကြောင်း၊ ဤလား ရှိုး - မူဆယ် ကားလမ်း အတွက် Pajero (၄) စီး သာခွင့်ပြုမည်ဖြစ်ပါကြောင်း၊ ၄င်းကို မူအဖြစ်သတ်မှတ်ထား ပြီး နောင်တွင်တင်ပြလာမည့်လမ်း များ အတွက်လည်း Pajero (၄) စီး စီကိုတင်သွင်း ခွင့်ပြုမည်ဖြစ်ပါကြောင်း ပြောကြား ပါသည်။ | |

| အမှတ်စဉ် | ဆွေးနွေးချက်နှင့်ညှိနှိုင်းဆုံးဖြတ်ချက် | ဆောင်ရွက်ရန်ဌာန |
|---|---|---|
| ၁ | ၂ | ၃ |
| | <u>ဆုံးဖြတ်ချက်</u><br>- လားရှိုး-မူဆယ်ကားလမ်းအား ပြုပြင်ဖောက်လုပ်သည့် ဆောက်လုပ်ရေးလုပ်ငန်းအတွက် ထပ်မံလိုအပ်သော စက်ပစ္စည်းနှင့် လုပ်ငန်းသုံးပစ္စည်းများ တန်ဖိုး အမေရိကန်ဒေါ်လာ ၄၀၀၀၀၀ ကို ခွင့်ပြုရန်၊<br>- Pajero (၄) စီးကို အခွန်ကင်းလွတ်ခွင့်ဖြင့် တင်သွင်းခွင့်ပြုရန်၊ | အတွင်းရေးမှူး ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း |
| ၂၀။ | <u>အထွေထွေ၊</u><br><u>L.P Holding Co., Ltd. မှ ဟိုတယ်နှင့်ရုံးခန်းအဆောက်အဦးစီမံကိန်း အတွက်လုပ်ငန်းပြီးစီးဖွင့်လှစ်နိုင်မည့်အချိန်ကာလနှင့် မြေငှားခ၊ မြေငှား ကာလကို ၁-၁၀-၉၇ မှစတင် ရေတွက်ခွင့်ပြုပါရန်တင်ပြခြင်းကိစ္စ။</u><br>အတွင်းရေးမှူး ဗိုလ်မှူးချုပ် မောင်မောင်က L.P Holding Co., Ltd. မှ နိုင်ငံတကာအဆင့်မီ Hotel Sofitel နှင့်ရုံးခန်းအဆောက်အဦးပါရှိမည့် Twin Tower ကို ဆောက်လုပ်လျက်ရှိရာ မြေပန္နက်ရိုက်ခြင်းလုပ်ငန်းကို ၂၅-၂-၉၄ နေ့တွင် ဆောင်ရွက်ခဲ့ပြီးဖြစ်ရာ မူလအဆိုပြုတင်ပြစဉ်က အခန်း (၂၇၀) ပါဟိုတယ်ကို မြေပန္နက်ရိုက်သည့် နေ့မှ (၂၀) လအတွင်းလည်းကောင်း၊ (၂၃) ထပ်ရှိ ခေတ်မီရုံးခန်းအဆောက်အဦးကို ယင်းဟိုတယ်ဖွင့်လှစ်သည့်နေ့မှ (၂၄) လအတွင်း ဖြစ်သော ၁၉၉၈ ခုနှစ်၊ ဇူလိုင်လတွင်လည်းကောင်း အပြီးတည်ဆောက်ဖွင့်လှစ်ရန်ဖြစ်ပါကြောင်း တင်ပြပါသည်။<br>ဆက်လက်၍ အတွင်းရေးမှူးက ဟိုတယ်နှင့်ရုံးခန်းကို တပြိုင်တည်း တည်ဆောက်ရပါသဖြင့် ဟိုတယ်ကို မူလရည်မှန်းသည်ထက် တစ်နှစ်ကျော် နောက်ကျ၍ ၁၉၉၇ ခုနှစ်၊ အောက်တိုဘာလ (၁) ရက်နေ့တွင် ပထမအဖွင့် | |

(၂၇.၁၂.၉၆) ၂၁/၉၆ ကို/မှ

လျှို့ဝှက်

အကြောင်းအရာ။ ။ အေးရှားဝါးလ်ကုမ္ပဏီလီမိတက်၏လားရှိုး - မူဆယ်ကားလမ်းအားပြုပြင်ဖောက်လုပ်သည့်ဆောက်လုပ်မှုတွင်အသုံးပြုရန်စက်ပစ္စည်းများထပ်မံ၍တိုးမြှင့်ဝယ်ယူတင်သွင်းခွင့်ပြုပါရန်ကိစ္စ။

၁။ အေးရှားဝါးလ်ကုမ္ပဏီလီမိတက်သည် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ပြည်သူ့ဆောက်လုပ်ရေး၊ လုပ်ငန်းဌာန၊ ရှမ်းပြည်နယ်မြောက်ပိုင်း၊ မန္တလေး-လားရှိုး-မူဆယ်ပြည်ထောင်စုလမ်းမကြီး၏လားရှိုး -မူဆယ်ကားလမ်းအပိုင်းလမ်းမကြီးအားပြုပြင်ဖောက်လုပ်သည့်ဆောက်၍လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်း လုပ်ကိုင်ဆောင်ရွက်ခွင့်ကိုမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၂-၇-၉၆ နေ့တွင် မနသ-၀၃၅/၉၆ဖြင့်ခွင့်ပြုမိန့်ထုတ်ပေးခဲ့ပါသည်။

၂။ အေးရှားဝါးလ်ကုမ္ပဏီလီမိတက်သည်နိုင်ငံခြားငွေအမေရိကန်ဒေါ်လာ (၂၇)သန်း အပါအဝင်စုစုပေါင်းကျပ် (၉၀၂)သန်း ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။ နိုင်ငံခြားငွေအမေရိကန်ဒေါ်လာ(၂၇)သန်းတွင် ငွေသားအမေရိကန်ဒေါ်လာ ၂၀သန်း၊ စက်နှင့်စက်ပစ္စည်းကိရိယာအမေရိကန်ဒေါ်လာ(၅)သန်းနှင့်လုပ်ငန်းသုံးပစ္စည်းအမေရိကန်ဒေါ်လာ(၂)သန်း ပါဝင်ပါသည်။

၃။ အေးရှားဝါးလ်ကုမ္ပဏီလီမိတက်အနေဖြင့်လက်တွေ့လုပ်ငန်းဆောင်ရွက်ရာတွင်ခွင့်ပြုခဲ့သောစက်ပစ္စည်းများနှင့်မလုံလောက်နိုင်ပါသဖြင့်စက်ပစ္စည်းတန်ဖိုး အမေရိကန်ဒေါ်လာ ၄၀၇,၇၀၀ ကိုလုပ်ငန်းတွင်ထပ်မံလိုအပ်ပါသဖြင့်တင်သွင်းခွင့်ပြုပါရန်တင်ပြလာပါသည်။ ယင်းစက်ပစ္စည်းများကိုမူလရင်းနှီးငွေဖြစ်သောနိုင်ငံခြားငွေအမေရိကန်ဒေါ်လာ ၂၇သန်းအတွင်းမှပင်ဝယ်ယူတင်သွင်းမည်ဖြစ်ပါ၍စက်ပစ္စည်းရင်းနှီးမြှုပ်နှံမှုပမာဏတိုးမြှင့်ခြင်းကိုခွင့်ပြုပါရန်တင်ပြလာပါသည်။(ပူးတွဲ)

၄။ ယင်းကုမ္ပဏီအနေဖြင့်စက်ပစ္စည်းများနှင့်ပတ်သက်၍ပထမအကြိမ်မူလခွင့်ပြုခဲ့သောစက်ပစ္စည်းရင်းနှီးမြှုပ်နှံမှုတန်ဖိုးအမေရိကန်ဒေါ်လာ(၅)သန်းအစား အမေရိကန်ဒေါ်လာ (၁၃.၇၀)သန်း သို့တိုးမြှင့်တင်သွင်းလိုပါကြောင်းတင်ပြခဲ့သည်ကို (၂-၇-၉၆)ရက်နေ့တွင်ကျင်းပခဲ့သောမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃/၉၆)ကြိမ်မြောက်ကြိုတင်ညှိနှိုင်းအစည်းအဝေးမှရင်းနှီးမြှုပ်နှံမှုဘောင်အတွင်းဖြစ်သည့်အတွက်သဘောတူခဲ့ပါသည်။

လျှို့ဝှက်

၅။ သို့ပါ၍ ပထမအကြိမ် စက်နှင့်စက်ပစ္စည်း အမေရိကန် ၁၃,၇၉၇,၂၀၀) ယခုထပ်မံ၍ စက်နှင့်စက်ပစ္စည်း အမေရိကန်ဒေါ်လာ (၄၀၀,၀၀၀) စုစုပေါင်း စက်နှင့်စက်ပစ္စည်းအမေရိကန်ဒေါ်လာ (၁၄,၂၀၆,၀၀၀) သို့တိုးမြှင့်လာမည်ဖြစ်ပါသည်။ယင်းသို့ စက်နှင့်စက်ပစ္စည်းများ တိုးမြှင့်ဝယ်ယူမှုမှာ မူလဈေးငွေဘောင်အတွင်း တွင်ဖြစ်ကြောင်း တွေ့ရှိရပါသည်။

၆။ မူလအဆိုပြုတင်ပြခဲ့စဉ်က စက်နှင့်စက်ပစ္စည်း စာရင်းတွင် Tipper/Dump Truck (၃၆) စီး၊ Truck (၄) စီး သာ ဖော်ပြထားပါသည်။ သို့ရာတွင် ပထမအကြိမ် စက်နှင့်စက်ပစ္စည်းများ ကိုတိုးမြှင့်ပေးပါရန်တင်ပြခဲ့စဉ်က Pajero (၅) စီး ဝယ်ယူတင်သွင်းခွင့်ရရှိခဲ့ကြောင်း တွေ့ရှိရပါသည်။

၇။ သို့ပါ၍ အေးရှားဝါးလ်ကုမ္ပဏီလီမိတက်၏ လားရှိုး - မူဆယ်ကားလမ်းအား ပြုပြင်ဖောက်လုပ်သည့် ဆောက်မှုလုပ်ငန်းတွင်အသုံးပြုရန်လိုအပ်သည့်စက်ပစ္စည်းများ ထပ်မံ၍တိုးမြှင့်ဝယ်ယူတင်သွင်း ခွင့်ပြုပါရန်ကိစ္စကိုလမ်းညွှန်မှုပေး နိုင်ပါရန်တင်ပြအမိန့်နာခံအပ်ပါသည်။



မ၁*၂၄/၁၂/၉၆။



# ASIA WORLD COMPANY LIMITED

NO. (61-62), BAHOSI DEVELOPMENT, WADAN STREET, LANMADAW TOWNSHIP, YANGON, MYANMAR.
TEL : 225271, 225371, 225982, 225184, 222422 FAX : (95-1) 227474,227553 TLX 21519 KKEHBM.

သို့

ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့။

စာအမှတ်- AWC/MIC- 052/96
ရက်စွဲ - ၁၉၉၆ ခုနှစ်၊ ဒီဇင်ဘာလ ( ၁၆ )ရက်

အကြောင်းအရာ။ လားရှိုး-မူဆယ်ကားလမ်းအားပြုပြင်ဖောက်လုပ်တည်ဆောက်၍လမ်းအသုံးပြုခ ကောက်ခံခြင်းလုပ်ငန်းအတွက်စက်ပစ္စည်းရင်းနှီးမြှုပ်နှံမှုပမာဏတိုးမြှင့်ကိစ္စ။

အထက်အကြောင်းအရာပါကိစ္စ နှင့် ပတ်သက်၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်မှ
(၈-၈-၉၆) ရက်စွဲပါစာအမှတ်-ရက-၁/မ-၀၆၇/၉၆ (၀၆၁၇) အရ စက်ပစ္စည်းရင်းနှီးမြှုပ်နှံမှုကို US $
(13.80) သန်းခွင့်ပြုခဲ့ပါသည်။ သို့ပါသော်လည်းလက်တွေ့လုပ်ငန်းဆောင်ရွက်ရာတွင် မူလခွင့်ပြုခဲ့သော
စက်ပစ္စည်းများနှင့်မလုံလောက်နိုင် ကြောင်းတွေ့ရှိရပါသည်။ သို့ဖြစ်ပါ၍ပူးတွဲပါစာရင်းအရ စက်ပစ္စည်း
နှင့်လုပ်ငန်းသုံးပစ္စည်းများတန်ဖိုး US $ ( 408,800.00) မှာ ထပ်မံလိုအပ်မည်ဖြစ်ပါသည်။

ယင်းလိုအပ်သော စက်ပစ္စည်းများကို မူလရင်းနှီးငွေဖြစ်သော နိုင်ငံခြားချေးငွေ US $
(270,00,000 ) အတွင်းတွင်သာသုံးစွဲမည်ဖြစ်ပါ၍ စက်ပစ္စည်း ရင်းနှီးမြှုပ်နှံမှုပမာဏတိုးမြှင့်ခြင်းကိုခွင့်ပြု
ပါရန်လေးစားစွာတင်ပြအပ်ပါသည်။

လေးစားစွာဖြင့်

U MAUNG KYAY
DIRECTOR
ASIA WORLD CO. LTD.

မိတ္တူကို-
ဦးဆောင်ညွှန်ကြားရေးမှူး
ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း

(26) to carry on the business of joint-venture with private individual, business organizations, government or semi-government enterprises, and co-operatives in the Union of Myanmar or outside the Union of Myanmar;

(27) to draw, make, accept, endorse, discount, execute and issue cheques, promissory notes, bills of exchange and other negotiable and transferable instruments;

(28) to carry within the country on any economic activities which the Board of Directors of the Company think fit and permitted by the existing laws;

PROVISO;- Provided that the Company shall not exercise any of the above objects whether in the Union of Myanmar or elsewhere, save in so far as it may be entitled so as to do in accordance with the laws in force from time to time and then only subject to such permission and approval as may be prescribed by the laws of the Union of Myanmar for the time being in force.

IV. The liability of the members of the Company is limited.

V. The Authorised Capital of the Company is K. 100,000,000/- ( Kyats One Hundred Million Only ) divided into 1,000 shares of K. 100,000/- ( Kyats One Hundred Thousand Only ) each with power in General Meeting either to increase, reduce or alter such capital from time to time in accordance with the regulations of the Company and the legislative provisions for the time being in force in this behalf.

V. The Authorized Capital of the Company is K. 1000,000,000/- (Kyats One Thousand Million Only) divided into 10,000 shares of K. 100,000/- (Kyats One Hundred Thousand Only) each with power in General Meeting either to increase, reduce or alter such capital from time to time in accordance with regulations of the Company and the legislative provisions for the time being in force in this behalf.

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

အစုရှယ်ယာများဖြင့် ပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့်သက်ဆိုင်သည့်ကုမ္ပဏီ

# အေးရှားဝါး(လ်) ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့မှတ်တမ်း

...... ..........

၁။ ကုမ္ပဏီ၏အမည်သည် ''အေးရှားဝါး(လ်) ကုမ္ပဏီလီမိတက်''ဖြစ်သည်၊

၂။ ကုမ္ပဏီ၏ မှတ်ပုံတင်ရုံးသည် ပြည်ထောင်စုမြန်မာနိုင်ငံတော် အတွင်းတွင် ရှိရမည်၊

၃။ ဤကုမ္ပဏီ တည်ထောင်ရခြင်း၏ ရည်ရွယ်ချက်များမှာ အောက်ပါအတိုင်းဖြစ်သည်။

(၁) ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ၏ လက်ရှိကျင့်သုံးနေသော ဟိုးခဲ့ပြောင်းလဲ ပေါ်ထွန်းလာသည့် စီးပွားရေးဝါဒအရ ဆောင်ရွက်လုပ်ကိုင်လျက်ရှိသော ပြည်တွင်းပြည်ပ ရောင်းဝယ်ရေး လုပ်ငန်းများကို ပိုမိုအကျိုးရှိစွာနှင့် တည်တံ့ခိုင်မြဲ၍ ကျယ်ကျယ်ပြန့်ပြန့်လုပ်ကိုင်ဆောင်ရွက်နိုင်ရန်။

(၂) သစ်တောထွက်ပစ္စည်းများဖြစ်သည့် သစ်မာများ၊ သစ်ပျော့များ၊ သစ်လုံးများ (ကျွန်းသစ်မှအပ)၊ သစ်ခွဲသားများ၊ အထပ်သားများ၊ သစ်ပါးလွှာများ၊ ကြမ်းခင်းတုံးများ၊ ကြိမ်အမျိုးမျိုး၊ ကြိမ်ထွက်ပစ္စည်းအမျိုးမျိုး၊ ဝါးအမျိုးမျိုး၊ မျှစ်စို၊ မျှစ်ခြောက်များ၊ သစ်စေးများ၊ ရှားစေးခဲများ၊ ထင်းရှူးဆီခဲများ၊ အင်တွဲများ၊ သစ်မွှေးများ၊ သနပ်ခါးတုံးများ၊ သနပ်ခါးမှုန့်များ၊ အခြားသစ်တောထွက် ပစ္စည်းများ၊ တိရစ္ဆာန်အရှင်များ၊ ငှက်အရှင်အမျိုးမျိုး၊ မျောက်များ၊ ဆင်များ၊ တိရစ္ဆာန်ဦးချိုများ၊ ခွာများ၊ အရိုးများ၊ သားရေအမျိုးမျိုး၊ သစ်သားထွက်ပစ္စည်းများ၊ သစ်၊ ဝါး၊ ကြိမ်ဖြင့်ပြုလုပ်ထားသော ပစ္စည်းအမျိုးမျိုး၊ ပရိဘောဂအမျိုးမျိုး၊ ပန်းပုတွင်းပစ္စည်းအမျိုးမျိုး၊ ပန်းချီကားချပ်အမျိုးမျိုး၊ ယွန်းထည်ပစ္စည်းများ စသည်တို့ကို လက်လီလက်ကား ရောင်းဝယ်ခြင်း၊ ကြိုတ်ခွဲခြင်း၊ ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း၊ သယ်ယူပို့ဆောင်ခြင်း၊ သိုလှောင်ခြင်း၊ နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်း စသည့်လုပ်ငန်းများကို ဆောင်ရွက်ရန်။

(၃) ပဲမျိုးစုံ သီးနှံများ၊ ကော်ဖီစေ့နှင့် ကော်ဖီမှုန့်များ၊ လက်ဖက်စိုနှင့် လက်ဖက်ခြောက်များ၊ ဟင်းသီးဟင်းရွက်များ၊ ပန်းမာလာများ အစရှိသော လယ်ယာကိုင်းကျွန်းနှင့် ဥယျာဉ်ခြံမြေထွက် ကုန်ပစ္စည်းများ၊ ဆေးဖက်ဝင်သော သစ်ဥ သစ်ဖုများကို လက်လီလက်ကားရောင်းဝယ်ခြင်း၊ ကြိတ်ခွဲခြင်း၊ ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း၊ သယ်ယူပို့ဆောင်ခြင်း၊ သိုလှောင်ခြင်း၊ သို့မဟုတ် နိုင်ငံခြားသို့ တင်ပို့ ရောင်းချခြင်း စသည့် လုပ်ငန်းများကို ဆောင်ရွက်ရန်၊

(၄) ရေထွက်ပစ္စည်းများဖြစ်သည့် ရေချိုငါးနှင့် ပုစွန်၊ ငါးခြောက်၊ ပုစွန်ခြောက်၊ ရေခဲစိမ် ငါး၊ ပုစွန်၊ ရေငံ ငါးနှင့်ပုစွန်၊ ပင်လယ်ငါးနှင့် ပုစွန်ခြောက်၊ ရေခဲစိမ် ပင်လယ် ငါးနှင့် ပုစွန်၊ စည်သွပ်ပြီးနှင့် ပြုပြင်ပြီး ရေချို ရေငံ ပုစွန်နှင့် ငါးအသားလွှာ၊ ပုစွန် ငပိနှင့် ငန်ပြာရည်၊ ငါး ငပိနှင့် ငန်ပြာရည်၊ ဆား၊ ငါးမန်းတောင်၊ ငါးစိမ်ဖောင်းများ၊ ဂဏန်းအရှင်များ၊ ငါးအရှင်များ၊ ပုစွန်အရှင်များ၊ မိကျောင်းအရှင်များ၊ လိပ်နှင့် လိပ်ဥများ၊ ပင်လယ်ခရုများ၊ မုတ်ခွံများ၊ ခရုစေတီများ၊ ကနုကမာ ခွံများဖြင့် ပြုလုပ်ထားသော အလှအပ ပစ္စည်းများ၊ တိရစ္ဆာန်များ၊ အခြား ရေထွက်ပစ္စည်းများ၊ သားရေ အစို

အခြောက်များ၊ ထုတ်လုပ်ပြီး အစားအစာများ၊ အချိုရည်များ၊ အခြားစားသောက်ကုန်နှင့် စားသောက်စရာ ကုန်ပစ္စည်းများကို လက်လီလက်ကား ရောင်းဝယ်ခြင်း၊ ကြိတ်ခွဲခြင်း၊ ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း၊ သယ်ယူပို့ဆောင်ခြင်း၊ သိုလှောင်ခြင်း၊ နိုင်ငံခြားသို့ တင်ပို့ရောင်းချခြင်း စသည့် လုပ်ငန်းများကို ဆောင်ရွက်ရန်၊

(၅) ကိုယ်ပိုင်သုံးပစ္စည်းများ၊ အိမ်သုံးပစ္စည်းများ၊ ဆောက်လုပ်ရေးနှင့် လျှပ်စစ်ပစ္စည်းများ၊ ဓာတ်ပုံပစ္စည်းများ၊ ရော်ဘာပလတ်စတစ်တို့ဖြင့်ပြုလုပ်သော ပစ္စည်းများ၊ စာရေးကိရိယာများ၊ ဓာတုဗေဒပစ္စည်းများ၊ ဆေးနှင့်ဆေးပစ္စည်းများ စသည့် အထက်ဖော်ပြပါ ပစ္စည်းအမျိုးအစား မျိုးစုံတို့ကို ပြည်ပမှ တင်သွင်းသူများ အဖြစ်လည်းကောင်း၊ တင်ပို့သူများအဖြစ်လည်းကောင်း၊ ကော်မရှင်စား ကိုယ်စားလှယ်များအဖြစ် လည်းကောင်း ဆောင်ရွက်ရန်၊

(၆) စက်ကိရိယာ အမျိုးအစားမျိုးစုံ၊ ဝန်ချီစက်များ၊ ယာဉ်မျိုးစုံနှင့် အရန်ပစ္စည်းများ၊ မီးထွန်းစက်များ၊ လျှပ်စစ်ဓာတ် စီးပြောင်း ကိရိယာများ၊ လေစုပ်စက်များ၊ အထက်ဖော်ပြပါ စက်ပစ္စည်းများ၊ ကိရိယာများနှင့်ပတ်သက်သည့် အရန်ပစ္စည်းများ၊ စက်မှုလုပ်ငန်းများ၊ သစ်တောနှင့် လယ်ယာစိုက်ပျိုးရေးလုပ်ငန်းများတွင် အသုံးပြုသည့် ကိရိယာတန်ဆာပလာများ၊ အသုံးအဆောင်ပစ္စည်းများကို ပြည်ပမှ တင်သွင်းသူများအဖြစ် လည်းကောင်း၊ ကော်မရှင် ကိုယ်စားလှယ်များအဖြစ်လည်းကောင်း ဆောင်ရွက်ရန်၊

(၇) စက်မှုလက်မှု ကုန်ကြမ်း ပစ္စည်းများကို ပြည်ပမှ တင်သွင်းရန်နှင့် ကော်မရှင် ကိုယ်စားလှယ်အဖြစ် ဆောင်ရွက်ရန်၊

(၈) မည်သည့် စာအုပ်၊ ဂျာနယ်၊ သတင်းစာနှင့် မဂ္ဂဇင်းမဆို ပုံနှိပ်ခြင်း၊ ထုတ်ဝေခြင်းလုပ်ငန်းနှင့် ဖြန့်ဖြူးခြင်း၊ ကြော်ငြာခြင်း၊ ကြော်ငြာကိုယ်စားလှယ် လုပ်ငန်းတို့ကို ပြည်ထောင်စု မြန်မာနိုင်ငံတော် အတွင်း၌ ဖြစ်စေ၊ ပြည်ထောင်စုမြန်မာနိုင်ငံတော်၏ပြင်ပ၌ဖြစ်စေ ဆောင်ရွက်ရန်၊

(၉) တိရစ္ဆာန်များနှင့် တိရစ္ဆာန် ဘေးထွက်ပစ္စည်းများ၊ တိရစ္ဆာန်အစားအစာများ၊ တိရစ္ဆာန် ဆေးဝါးများ၊ ပိုးသတ်ဆေးများကို လက်လီလက်ကား ရောင်းဝယ်ခြင်း၊ ကြိတ်ခွဲခြင်း၊ ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း၊ သယ်ယူပို့ဆောင်ခြင်း၊ သိုလှောင်ခြင်း၊ နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်း စသည့်လုပ်ငန်းများကို ဆောင်ရွက်ရန်၊

(၁၀) မည်သည့် အမျိုးအစားဖြစ်သော မြေများကိုမဆို ဝယ်ရန် သို့မဟုတ် အခြားနည်းဖြင့် ရယူရန်နှင့် အိမ်များ၊ အဆောက်အအုံများ၊ စက်ရုံများကို ဝယ်ရန် သို့မဟုတ် ရယူရန်နှင့် ဆောက်လုပ်ရန်၊ ၎င်းတို့ကို အသုံးပြုရန်၊ ငှားရမ်းရန်၊ ကုန်ချင်းဖလှယ်ရန် သို့မဟုတ် အခြားနည်းဖြင့်ရောင်းဝယ်ရန် သို့မဟုတ် ထုခွဲရောင်းချရန်၊

(၁၁) အောက်ဖော်ပြပါ ပစ္စည်းများ၊ လုပ်ငန်းများနှင့် ပတ်သက်၍ ဈေးကွက်အခြေအနေ စူးစမ်း လေ့လာခြင်း၊ သုတေသနပြုခြင်း၊ ဖွံ့ဖြိုးတိုးတက်အောင် ဆောင်ရွက်ခြင်း၊ ပြည်တွင်းသို့ တင်သွင်းခြင်း၊ ပြည်ပသို့ တင်ပို့ရောင်းချခြင်း၊ သယ်ယူပို့ဆောင်ခြင်း၊ ကုန်ထုတ်လုပ်ခြင်း၊ ရောင်းချခြင်းနှင့် ဖြန့်ဖြူးခြင်းတို့ကို ဆောင်ရွက်ရန် ဖြစ်သည်၊

(က) အမျိုးအစား အမျိုးအမည်မရွေး အားလုံးသော လူသုံး၊ စက်မှုလက်မှုလုပ်ငန်းသုံးနှင့် ကူးသန်း ရောင်းဝယ်ဖောက်ကားနိုင်သည့် တာရှည်ခံ၊ တစ်ပိုင်းတစ်စတာရှည်ခံနှင့် ပျက်စီးလွယ်သော ကုန်ပစ္စည်းများ (ထိုပစ္စည်းများနှင့် ဆက်နွယ်သည့်ပစ္စည်းများ၊ အပိုပစ္စည်းများပါဝင်သည်)

(ခ) အမျိုးအစား အမျိုးအမည်မရွေး အားလုံးသော ချည်မျှင်၊ အထည်အလိပ်နှင့် အထည်အလိပ်ပစ္စည်းများ၊ ဂုံလျှော်နှင့် ဂုံလျှော်ထွက်ပစ္စည်းများ၊ ထုပ်ပိုးပစ္စည်းများ၊

(ဂ) အမျိုးအစား အမျိုးအမည်မရွေး အားလုံးသော သားရေနှင့် သားရေထွက် ပစ္စည်းများ၊ ရှူးဖိနပ်၊ ခြေညှပ်ဖိနပ်၊ လက်ကိုင်အိတ်စသည့် သားရေနှင့်ပြုလုပ်သည့်ပစ္စည်းများ၊

(ဃ) အမျိုးအစား အမျိုးအမည်မရွေး အားလုံးသောအကျီနှင့် ပျော့ဖတ်များ(မင်ခံစက္ကူ၊ ဖယောင်းစက္ကူ၊ ရေအိမ်သုံးစက္ကူ၊ ကတ္တူစက္ကူများ အပါအဝင်)၊

(င) အမွေးနံ့သာများနှင့် အလှအပသုံးပစ္စည်းများ၊ လက်ပတ်နာရီများနှင့် နာရီအမျိုးမျိုး၊ တုပ လက်ဝတ်ရတနာများ၊ ပလတ်စတစ်များ၊ လျှပ်စစ်နှင့် အီလက်ထရောနစ်ထုတ်ကုန်ပစ္စည်းများ၊

(၁၂) ကုန်ပစ္စည်းပို့ဆောင်ရေးလုပ်ငန်းများ၊ ရှင်းလင်းရေးကိုယ်စားလှယ်၊ ကုန်တင်ကုန်ချလုပ်ငန်း၊ ကုန်သိုလှောင်ရုံပိုင်ရှင်လုပ်ငန်း၊ ကုန်လှောင်ရုံပိုင်ရှင်လုပ်ငန်း၊ ရေဖြတ်လုပ်ငန်း၊ သင်္ဘောရိက္ခာသွင်းသူ လုပ်ငန်းနှင့် ကုန်မျိုးစုံသွင်းသူများ လုပ်ငန်းများကို ဆောင်ရွက်ရန်၊

(၁၃) အစိုးရပိုင်နှင့် ပုဂ္ဂလိကပိုင် စီးပွားရေးလုပ်ငန်းများနှင့် သွင်းကုန်လုပ်ကိုင်သူများမှ တင်ဒါသွင်းခြင်းနှင့် အခြားပစ္စည်းများဝယ်ယူသည့်ကိစ္စရပ်များတွင် ကော်မရှင်စား ကိုယ်စားလှယ်များအဖြစ် လည်းကောင်း၊ နိုင်ငံခြားကုမ္ပဏီများ၏ အတတ်ပညာပိုင်းဆိုင်ရာ ကိုယ်စားလှယ်များအဖြစ်လည်းကောင်း ဆောင်ရွက်ရန်၊

(၁၄) ကုမ္ပဏီအတွက် လွယ်ကူစွာဆောင်ရွက်နိုင်မည့်လုပ်ငန်း သို့မဟုတ် ကုမ္ပဏီ၏ ဝတ္ထုပစ္စည်းနှင့် အခွင့်အရေးများအတွက် အကျိုးသက်ရောက်မည်ဟုယူဆရသည့် မည်သည့် လုပ်ငန်းမျိုးကိုမဆို လုပ်ကိုင်ဆောင်ရွက်ရန်၊

(၁၅) မြန်မာပြည်တွင်းရှိ ဆောက်လုပ်ရေးနှင့် ဖွံ့ဖြိုးမှုလုပ်ငန်းများတွင် ပြည်တွင်းပြည်ပကုမ္ပဏီများ၏ အတိုင်ပင်ခံများအဖြစ်လည်းကောင်း၊ အတတ်ပညာရှင်ပိုင်းဆိုင်ရာ ကိုယ်စားလှယ်များအဖြစ်လည်းကောင်း ဆောင်ရွက်ရန်၊

(၁၆) ဤကုမ္ပဏီအနေဖြင့်သော်လည်းကောင်း၊ ၎င်း၏ ဒါရိုက်တာများအဖြစ်သော်လည်းကောင်း ဆောင်ရွက်ပေးနိုင်သည့် မည်သည့်အကြံပေးလုပ်ငန်း၊ ရုံးလုပ်ငန်းနှင့် အတွင်းရေးမှူးလုပ်ငန်းများကိုမဆို ဆောင်ရွက်ရန်၊

(၁၇) ကွန်ပျူတာ အသုံးချရေးနှင့် ကွန်ပျူတာနည်းပညာနှင့် စပ်လျဉ်းသည့် သင်တန်းများ ဖွင့်လှစ်ဆောင်ရွက်ရန်၊ ကွန်ပျူတာနှင့် ကွန်ပျူတာ အရန်ပစ္စည်းများ၊ ကွန်ပျူတာနှင့်ပတ်သက်သည့် ပစ္စည်းများ၊ လက်နှိပ်စက်များနှင့် ရုံးသုံးစက်ကိရိယာများပြုပြင်ခြင်း၊ မွန်းမံထိန်းသိမ်းခြင်းစသည့် ဝန်ဆောင်မှုလုပ်ငန်းများကို ဆောင်ရွက်ရန်၊

(၁၈) နိုင်ငံတော်ပိုင်၊ သမဝါယမပိုင်နှင့် ပုဂ္ဂလိကပိုင်စက်ရုံ၊ အလုပ်ရုံများမှ ထုတ်လုပ်သည့် ထွက်ရှိသည့် ကုန်ကြမ်း၊ ကုန်ချောပစ္စည်းအမျိုးမျိုးတို့ကို မူရင်းအတိုင်းသော်လည်းကောင်း၊ ပြုပြင်မွမ်းမံ၍သော်လည်းကောင်း လက်လီလက်ကား ရောင်းဝယ်ခြင်း၊ ကြိတ်ခွဲခြင်း၊ ထုတ်လုပ်ခြင်း၊ ဖြန့်ဖြူးခြင်း၊ သယ်ယူပို့ဆောင်ခြင်း၊ သိုလှောင်ခြင်း နိုင်ငံခြားသို့တင်ပို့ရောင်းချခြင်းများကို ဆောင်ရွက်ရန်၊

(၁၉) ပြည်ထောင်စုမြန်မာနိုင်ငံအတွင်း၌ ဤကုမ္ပဏီ၏ ကိုယ်စားလှယ်များ သို့မဟုတ် မန်နေဂျာ ခန့်အပ်ခြင်းနှင့် ကိုယ်စားလှယ်များဖွဲ့စည်းခြင်း ပြုလုပ်ရန်၊

(၂၀) အမျိုးအစား အမျိုးအမည်မရွေး အားလုံးသော အစိုးရနှင့် ပြည်သူများအတွက် လမ်းများ၊ တံတားများ၊ တူးမြောင်း စသည့် ရေကြောင်းများ၊ ဆေးရုံ/ဂိုဒေါင်များ၊ စက်ရုံများ၊ အလုပ်ရုံများ၊ အဆောက် အအုံများ၊ အားကစားရုံ/ကွင်းများ စသည်များကိုဆောက်လုပ်သည့် လုပ်ငန်းများကို ဆောင်ရွက်ရန်(တည်ဆောက်ခြင်း၊ ထိန်းသိမ်းခြင်း၊ ဖြိုချခြင်းများပါဝင်သည်)။

(၂၁) အမျိုးအစား အမျိုးအမည်မရွေး အားလုံးသော ဝန်ဆောင်လုပ်ငန်းများ၊ ပြုပြင်မွမ်းမံထိန်းသိမ်းသည့်လုပ်ငန်းများနှင့် မွမ်းမံပြုပြင်ခြင်း၊ ပြင်ဆင်အစားထိုးသည့်လုပ်ငန်းများကို ဆောင်ရွက်ရန်၊

(၂၂) ကုန်သွယ်လုပ်ငန်း လုပ်ဆောင်နေသော ပုဂ္ဂိုလ်တစ်ဦးဦး သို့မဟုတ် ပုဂ္ဂိုလ်အများ၊ လုပ်ငန်း၊ ကုမ္ပဏီ သို့မဟုတ် ဖျက်သိမ်းလျက်ရှိသော ကုမ္ပဏီ သို့မဟုတ် ကော်ပိုရေးရှင်းတို့၏ အားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသ ကုန်သွယ်လုပ်ငန်း ပစ္စည်းများ၊ အလုပ်လုပ်လျက်ရှိသေးသော သို့မဟုတ် ဖျက်သိမ်းလျက် ရှိသော

လုပ်ငန်းများနှင့် ဆက်စပ်ပူးတွဲလျက်ရှိသော ကုမ္ပဏီပိုင် ပစ္စည်းအရပ်ရပ်နှင့် တာဝန်များကို ရယူပြီးသော်လည်းကောင်း၊ ကတိစာချုပ် ချုပ်ဆို၍သော်လည်းကောင်း၊ ဤကုမ္ပဏီကဆက်လက်လုပ်ကိုင်သွားရန်။

(၂၃) ဤကုမ္ပဏီ၏ ဝယ္ယုပစ္စည်းများနှင့် ပေးရန်တာဝန်များကို ရယူရန်အတွက်လည်းကောင်း၊ သို့မဟုတ်ဤကုမ္ပဏီအား တိုက်ရိုက် သို့မဟုတ် သွယ်ဝိုက်သောနည်းဖြင့်အကျိုးသက်ရောက်စေမည့် အခြားကိစ္စရပ်များအတွက်လည်းကောင်း၊ သို့မဟုတ် ဤကုမ္ပဏီ၏ ရည်မှန်းချက်များအားလုံး သို့မဟုတ် တစ်စိတ်တစ်ဒေသနှင့် တူညီသော မည်သည့် ကုမ္ပဏီကိုမဆို သိမ်းယူရန်အတွက်သော်လည်းကောင်း တည်ထောင်ပေးရန်၊

(၂၄) ဤကုမ္ပဏီအတွက် အကျိုးရှိမည်ဟု ဒါရိုက်တာများက ယူဆခဲ့သော် ကြေးမြီဆပ်ရန် သီးသန့် ရန်ပုံငွေထားခြင်း၊ သီးသန့်ရန်ပုံငွေ ဖယ်ထားခြင်း၊ အထူးရန်ပုံငွေ စုထားခြင်းများ ပြုလုပ်ရန်၊

(၂၅) လောလောဆယ်အားဖြင့် လုပ်ငန်းကိစ္စအနေဖြင့် မလိုသေးသော ကုမ္ပဏီ၏ ငွေရင်းများကို အခါအားလျော်စွာ ဆုံးဖြတ်သည့်အတိုင်း သင့်လျော်မည်ဟု ထင်မြင်သော မြုပ်နှံရင်းနှီးခြင်း သို့တည်းမဟုတ် အာမခံပစ္စည်း များတွင် ရင်းနှီးမြှုပ်နှံရန်။

(၂၆) ပြည်တွင်းပြည်ပရှိ ပုဂ္ဂလိကများ၊ စီးပွားရေးအဖွဲ့အစည်းများ၊ အစိုးရများ၊ နိုင်ငံပိုင်စီးပွားရေးအဖွဲ့အစည်းများနှင့် သမဝါယမတို့နှင့် ဖက်စပ်လုပ်ငန်းများ လုပ်ကိုင်ဆောင်ရွက်ရန်၊

(၂၇) ချက်လက်မှတ်များကိုသော်လည်းကောင်း၊ ငွေပေးကတိစာချုပ်ကိုသော်လည်းကောင်း၊ ငွေလွှဲစာချုပ်ကိုသော်လည်းကောင်း၊ လွှဲပြောင်းနိုင်သော သို့မဟုတ် စေ့စပ်နိုင်သော အခြားစာချုပ် စာတမ်းများကိုသော်လည်းကောင်း ထုတ်ယူရန်၊ ပြုလုပ်ရန်၊ လက်ခံရန်၊ ထပ်ဆင့်လက်မှတ်ရေးထိုးရန်၊ လျှော့နှုန်းဖြင့် လဲလှယ်ရန်၊ လုပ်ကိုင်ဆောင်ရွက်ရန်နှင့် ထုတ်ပေးရန်။

(၂၈) ဒါရိုက်တာအဖွဲ့မှ သဘောတူ၍ တည်ဆဲဥပဒေများက ခွင့်ပြုသည့် မည်သည့်စီးပွားရေး လုပ်ငန်းကိုမဆို လုပ်ကိုင် ဆောင်ရွက်ရန်၊

ခြွင်းချက်၊ ကုမ္ပဏီသည် အထက်ဖော်ပြပါ ရည်ရွယ်ချက်များကို ပြည်ထောင်စုမြန်မာနိုင်ငံတော်အတွင်း၌ ဖြစ်စေ၊ အခြားမည်သည့်ဒေသ၌ ဖြစ်စေ၊ အချိန်ကာလအလိုက် တည်ဆဲဖြစ်နေသော ဥပဒေများက ခွင့်ပြုထားသည့် လုပ်ငန်းများမှအပ ဆောင်ရွက်ခြင်းမပြုပါ၊ ထို့အပြင်ပြည်ထောင်စု မြန်မာနိုင်ငံတော်အတွင်း၌ တည်ဆဲဖြစ်နေသည့် ဥပဒေများ၏ ပြဋ္ဌာန်းချက်များနှင့် လျော်ညီသင့်တော်ခြင်း၊ သို့မဟုတ် ခွင့်ပြုထားခြင်းရှိမှသာလျှင် လုပ်ငန်းများကို ဆောင်ရွက်မည်ဟု ခြွင်းချက်ထားရှိပါသည်၊

၄။ ကုမ္ပဏီ၏ အဖွဲ့ဝင်များ၏ ပေးရန်တာဝန်ကို ကန့်သတ်ထားသည်။

၅။ ကုမ္ပဏီ၏ခွင့်ပြုရင်းနှီးငွေမှာ ကျပ် ၁၀၀၀,၀၀၀,၀၀၀/- (ကျပ်တစ်ထောင်သန်းတိတိ) ဖြစ်၍ ၁၀၀,၀၀၀/- (ကျပ်တစ်သိန်းတိတိ)တန် အစုရှယ်ယာပေါင်း ၁၀၀၀၀ (တစ်သောင်း) ခွဲထားသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့်ပြင်ဆင်နိုင်ခွင့် အာဏာရှိသည်၊

၅။ ကုမ္ပဏီ၏ခွင့်ပြုရင်းနှီးငွေမှာ ကျပ် ၁၀၀၀,၀၀၀,၀၀၀/- (ကျပ်တစ်ထောင်သန်းတိတိ) ဖြစ်၍ ၁၀၀,၀၀၀/- (ကျပ်တစ်သိန်းတိတိ)တန် အစုရှယ်ယာပေါင်း ၁၀၀၀၀ (တစ်သောင်း) ခွဲထားသည်။ ကုမ္ပဏီ၏ရင်းနှီးငွေကို ကုမ္ပဏီ၏ စည်းမျဉ်းများနှင့် လက်ရှိတရားဝင် တည်ဆဲဖြစ်နေသော တရားဥပဒေ ပြဋ္ဌာန်းချက်များနှင့် အညီ အထွေထွေ သင်းလုံးကျွတ် အစည်းအဝေး၌ တိုးမြှင့်နိုင်ခွင့်၊ လျှော့ချနိုင်ခွင့်နှင့်ပြင်ဆင်နိုင်ခွင့် အာဏာရှိသည်။

အောက်တွင် အမည်၊ နေရပ်နှင့်အကြောင်းအရာ စုံလင်စွာပါသောအယားတွင် လက်မှတ်ရေးထိုးသူ ကျွန်ုပ်တို့သည် ညွှန်ကြားချက်မှတ်တမ်းအရ ပေးရန်တာဝန်ကန့်သတ်ထားသော အများနှင့်သက်ဆိုင်သည့်ကုမ္ပဏီတစ်ခုဖွဲ့စည်းတည်ထောင်ရန် လိုလားကြသည့်အလျောက် ကျွန်ုပ်တို့၏အမည်အသီးသီးနှင့် ယှဉ်တွဲဖော်ပြထားသောအစုရှယ်ယာများကို ကုမ္ပဏီ၏ မတည်ငွေရင်းတွင် ထည့်ဝင်ကြရန် သဘောတူကြပါသည်။

| စဉ် | အစုထည့်ဝင်သူများ၏ အမည်နှင့်နေရပ်လိပ်စာ | အလုပ်အကိုင် | နိုင်ငံသား အမျိုးသား မှတ်ပုံတင်အမှတ် | ဝယ်ယူသော အစုရှယ်ယာ ဦးရေ | လက်မှတ် |
|---|---|---|---|---|---|
| ၁ | ဦးအောင်နိုင်<br>၆၂၊ရွှေပေါင်တန်းလမ်း၊<br>လမ်းမတော်မြို့နယ်၊<br>ရန်ကုန်မြို့။ | ကုန်သည် | မြန်မာ<br>စခအ-၀၂၄၇၄၇ | ၁၀ | |
| ၂ | ဦးထွန်းမြင့်နိုင်<br>၁၅၂၊ဆူးလေဘုရားလမ်း၊<br>ကျောက်တံတားမြို့နယ်၊<br>ရန်ကုန်မြို့။ | ကုန်သည် | မြန်မာ<br>ကေအယ်လ်ဂျီ-<br>၀၅၁၀၂၃ | ၁၀ | |
| ၃ | ဦးကျော်ထွန်း<br>၁၀၀၊ စနေလမ်း၊<br>ခရမ်းမြို့နယ်၊<br>ရန်ကုန်မြို့။ | ကုန်သည် | မြန်မာ<br>ကေဝိုင်အင်န်<br>၀၁၆၄၇၃ | ၁၀ | |

နေ့စွဲ ၁၉၉၂ ခုနှစ်၊ [illegible] လ၊ ၁၅ ရက်။

အထက်ပါ လက်မှတ်ရှင်များသည် ကျွန်ုပ်၏ရှေ့မှောက်တွင် လက်မှတ်ရေးထိုးကြပါသည်။

[illegible]
[illegible]

မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ

**အစုရှယ်ယာများဖြင့် အပေးရန်တာဝန် ကန့်သတ်ထားသော အများနှင့် မသက်ဆိုင်သည့်ကုမ္ပဏီ**

# အေရှာဝါး(လ်) ကုမ္ပဏီ လီမိတက်

၏

## သင်းဖွဲ့စည်းမျဉ်း များ

၁။ ဤသင်းဖွဲ့စည်းမျဉ်းများတွင် ပြဋ္ဌာန်းထားခြင်း၊ သို့မဟုတ် ထုတ်ပယ်ထားခြင်းမှတစ်ပါး မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပထမဇယား ပါ စည်းမျဉ်းများသည် ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်၊ သို့ရာတွင် မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပုဒ်မ ၁၇ (၂) တွင် ဖော်ပြထားသော မလိုက်နာမနေရ စည်းမျဉ်း များသည် အမြဲတမ်း ဤကုမ္ပဏီနှင့် သက်ဆိုင်စေရမည်။

### အစုရှယ်ယာလက်မှတ်များ

၂။ အစုရှင်တိုင်းသည် အစုရှယ်ယာခွဲထုတ်ပေးပြီး သို့မဟုတ် အစုရှယ်ယာလွှဲပြောင်းခြင်းကို မှတ်ပုံတင်ပြီးသည့်နောက် နှစ်လအတွင်း ကုမ္ပဏီတံဆိပ်နှင့် မန်နေဂျင်းဒါရိုက်တာက လက်မှတ်ရေးထိုး၍အခြားဒါရိုက်တာတစ်ဦးက ထပ်ဆင့်လက်မှတ်ရေးထိုးထားသည့် အစုရှယ်ယာလက်မှတ်ကို အခမဲ့ရပိုင်ခွင့်ရှိရမည်။ ၎င်းအစုရှယ်ယာလက်မှတ်တွင် အစုရှင်ပိုင်ဆိုင်သည့် သို့မဟုတ် ပြောင်းလွှဲပြီးသည့် အစုရှယ်ယာများနှင့် ပေးဆပ်ပြီးငွေကို ဖော်ပြရမည်။ တွဲဖက်ပိုင်ဆိုင်သော ကုမ္ပဏီသည် တွဲဖက်အစုရှင်များအားလုံးသို့ အစုရှယ်ယာလက်မှတ်တစ်စောင် ထပ်မံထုတ်ပေးရန်မလို။ အဆိုပါအစုရှယ်ယာလက်မှတ်ကို တွဲဖက်အစုရှင်များထဲမှ တစ်ဦးဦးသို့ ပေးအပ်ခဲ့သော် လုံလောက်သော ပေးအပ်ခြင်းဖြစ်ရမည်။

၃။ နှစ်ဦး သို့မဟုတ် နှစ်ဦးထက်ပိုသော ပုဂ္ဂိုလ်များ၏ အမည်များဖြင့် မှတ်ပုံတင်ထားသည့် အစုရှယ်ယာလက်မှတ်ကို ၎င်းအစုရှယ်ယာ လက်မှတ်နှင့် သက်ဆိုင်သည့်မှတ်ပုံတင်စာရင်းတွင် ပထမဦးစွာဖော်ပြသော နာမည်ရှိသည့် ပုဂ္ဂိုလ်အား ပေးအပ်ရမည်။

၄။ အကယ်၍မည်သည့် အစုရှယ်ယာလက်မှတ်မဆို ဟောင်းနွမ်းခဲ့လျှင် သို့မဟုတ် ပျက်စီးချွတ်ယွင်းလျှင် အဆိုပါ အစုရှယ်ယာလက်မှတ်ကို တင်ပြပါက ဒါရိုက်တာများသည် ၎င်းအစုရှယ်ယာလက်မှတ်ကို ဖျက်သိမ်းရန်ညွှန်ကြားနိုင်ပြီး ၎င်းအစုရှယ်ယာလက်မှတ်အစား အစုရှယ်ယာလက်မှတ် အသစ်တစ်စောင်ကို ထုတ်ပေးရန်ညွှန်ကြားနိုင်သည်။ အကယ်၍မည်သည့်အစုရှယ်ယာလက်မှတ်မဆို ပျက်စီးခဲ့လျှင် သို့မဟုတ်ပျောက်ဆုံးခဲ့လျှင် ဒါရိုက်တာများ ကျေနပ်လောက်အောင် အဆိုပါပျက်စီးကြောင်း၊ သို့မဟုတ် ပျောက်ဆုံးကြောင်းကို သက်သေ သာဓက ပြနိုင်လျှင် သို့မဟုတ် သက်သေသာဓကမပြနိုင်ခဲ့လျှင် မည်သို့ပင်ဖြစ်စေ ဒါရိုက်တာများက လုံလောက်သည်ဟု ယူဆသော အာမခံချက်ပေးခဲ့လျှင် အဆိုပါပျက်စီးသည့်သို့မဟုတ်ပျောက်ဆုံးသည့်အစုရှယ်ယာလက်မှတ်ကိုရထိုက်သူအား အဆိုပါ အစုရှယ်ယာလက်မှတ်အစား အစုရှယ်ယာလက်မှတ်သစ် တစ်စောင်ကို ထုတ်ပေးရမည်၊

၅။ မည်သည့် အစုရှင်ကိုမဆို အစုရှယ်ယာတိုင်းအတွက် ခေါ်ယူသည့်လက်ရှိအချိန်တွင်ပေးဆပ်ရန်ဖြစ်သည့် အစုငွေများကို အတိုးနှင့်ပေးရန် အခြားစရိတ်များ (ရှိခဲ့သော်)နှင့်တကွ မပေးဆပ်ခဲ့လျှင် ၎င်းအစုရှယ်ယာကို ၎င်းတစ်ဦးတည်း ပိုင်ဆိုင်သည်ဖြစ်စေ၊ သို့မဟုတ်မည်သည့် အခြားသူတစ်ဦးတစ်ယောက်နှင့် တွဲဖက်ပိုင်ဆိုင်သည်ဖြစ်စေ၊ မည်သည့် အမြတ်ငွေကိုမျှ အစုရှင်တစ်ဦးအနေဖြင့် လက်ခံယူနိုင်ခွင့်မရှိစေရ။ သို့မဟုတ် မည်သည့် အစည်းအဝေးတွင်မဆို တက်ရောက်နိုင်ခွင့်၊ သို့မဟုတ် မဲပေးနိုင်ခွင့်၊ သို့မဟုတ် မဲစာရင်းတွင် ပါဝင်နိုင်ခွင့်၊ သို့မဟုတ် မည်သည့် အခွင့်အရေးကိုမဆို သုံးစွဲပိုင်ခွင့်မရှိစေရ။

## သိမ်းထားပိုင်ခွင့်

၆။ တစ်ဦးတည်းသော်လည်းကောင်း၊ အခြားသူတစ်ဦးဦးနှင့်ပူးတွဲ၍သော်လည်းကောင်း၊ ကုမ္ပဏီသို့ပေးရန်ရှိသော ကြွေးမြီအတွက်ဖြစ်စေ၊ ကြွေးမြီတာဝန်အတွက်ဖြစ်စေ၊ ကုမ္ပဏီနှင့်ပြုလုပ်ထားသောတာဝန်ယူချက်အတွက်ဖြစ်စေ ပေးရန်သော်လည်းကောင်း၊ ပြည့်စုံအောင်ဆောင်ရွက်ရန်သော်လည်းကောင်း၊ ပြေလည်အောင်ပြုလုပ်ရန်သော်လည်းကောင်း ထိုအချိန်ကာလအပိုင်းအခြား အကယ်ရောက်သည်ဖြစ်စေ၊ မရောက်သည်ဖြစ်စေ အဆိုပါ အစုရှယ်ယာတစ်ခုခုအတွက် တစ်ဦးတည်းသော်လည်းကောင်း၊ အခြားသူတစ်ဦးနှင့်ပူးတွဲ၍သော်လည်းကောင်း၊ ဤကုမ္ပဏီအဖွဲ့ဝင်အမည်ဖြင့် မှတ်ပုံတင်ထားလျှင်သော်လည်းကောင်း အပြည့်မပေးရသေးသော အစုရှယ်ယာ အားလုံးအပေါ်တွင် ဤကုမ္ပဏီက အဦးဆုံးနှင့် အသာဆုံး သိမ်းထားပိုင်ခွင့် ရှိစေရမည်။ အဆိုပါ သိမ်းထားပိုင်ခွင့်သည် အဆိုပါ အစုရှယ်ယာများနှင့်စပ်လျဉ်း၍ အခါအားလျော်စွာ ကြေညာထားသော အမြတ်ဝေစုအားလုံးနှင့် သက်ဆိုင်စေရမည်၊ သို့ရာတွင် ဤစည်းမျဉ်းပါပြဋ္ဌာန်းချက်များအားလုံးအရသော်လည်းကောင်း၊ တစ်စိတ်တစ်ဒေသအရသော်လည်းကောင်း အစုရှယ်ယာတစ်ခုခုသည် ကင်းလွတ်စေရမည်ဟု ဒါရိုက်တာများက မည်သည့်အချိန်အခါတွင်မဆို ပြဋ္ဌာန်းနိုင်သည်၊

၇၊ ဒါရိုက်တာများသည် မိမိတို့သင့်တော်သည်ထင်မြင်သောအချိန်တွင် သိမ်းထားပိုင်ခွင့်ရှိသောအစုရှယ်ယာများကို ရောင်းနိုင်သည်။ သို့သော် အဆိုပါ သိမ်းထားပိုင်ခွင့်နှင့်စပ်လျဉ်း၍ တည်ရှိသောငွေများကို လောလောဆယ် ပေးရန် မလိုသောကြောင့်လည်းကောင်း၊ သို့မဟုတ် သိမ်းထားပိုင်ခွင့်မရှိသော ငွေအရေအတွက်ကိုပေးရန် အချိန်ကျရောက်ကြောင်းဖော်ပြ၍ စာဖြင့် ထိုအချိန်တွင် အစုရှယ်ယာပိုင်ရှင်ဟု အသိအမှတ်ပြုထားခြင်းခံရသောသူအား၊ သို့မဟုတ် ပိုင်ရှင်သေဆုံး၍ အစုရှယ်ယာ ပိုင်ဆိုင်ခွင့်ရှိသူအား နို့တစ်ပေး အကြောင်းကြားသည့်နေ့မှစ၍ တစ်ဆယ့်လေးရက်မပြည့်မချင်း သိမ်းထားပိုင်ခွင့်ရှိသောအစုရှယ်ယာကို ရောင်းချခြင်းမပြုရ။

## အစုရှယ်ယာများခေါ်ယူခြင်း

၈။ ဤသင်းဖွဲ့စည်းမျဉ်း၌ပါရှိသောအချက်များနှင့် အစုရှယ်ယာခွဲဝေသတ်မှတ်မှုနှင့်ဆိုင်သော စည်းကမ်းချက်များကို မဆန့်ကျင်စေဘဲ ဒါရိုက်တာများသည် အခါအားလျော်စွာ အစုရှယ်ယာများအတွက် မပေးဆောင်ရသေးသော ကျန်ငွေအားလုံးကို အစုရှင်များထံမှ ခေါ်ယူတောင်းခံနိုင်သည်၊ ယင်းသို့ တောင်းခံခြင်းခံရသူ ကုမ္ပဏီ၏ အဖွဲ့ဝင်တိုင်းသည် တောင်းဆိုသည့်ဒါရိုက်တာများက သတ်မှတ်ပေးထားသည့်ပုဂ္ဂိုလ်များသို့ သတ်မှတ်ရက်နှင့် နေရာဌာနတို့တွင်ပေးသွင်းရမည်။

၉။ အစုရှယ်ယာငွေ ခေါ်ယူတောင်းခံချက်သည် အရစ်ကျပေးခွင့်ပြုချက်မျိုး ဖြစ်နိုင်သည်။ ယင်းတောင်းဆိုချက်ကို အနည်းဆုံး တစ်ဆယ့်လေးရက်ကြိုတင်၍ နို့တစ်စာပေးရမည်။ နို့တစ်စာတွင်ပေးသွင်းရမည့်အချိန် သို့မဟုတ် အချိန်များ၊ ပေးသွင်းရမည့်နေရာဌာနနှင့် မည်သို့ပေးသွင်းရမည်ကိုဖော်ပြ၍ မှတ်ပုံတင်စာအုပ်တွင် ရေးသွင်းထားသည့်လိပ်စာအတိုင်း အဖွဲ့ဝင်များသို့ပို့ပေးရမည်။

၁၀။ အစုရှယ်ယာပေါ် ငွေခေါ်ယူတောင်းခံရန်ခွင့်ပြုသည့်ဆုံးဖြတ်ချက်ကို ဒါရိုက်တာများကချမှတ်သည့်အချိန်သည် တောင်းခံခြင်းပြုလုပ်သည်ဟုမှတ်ယူရမည်။

၁၁။ ခေါ်ယူတောင်းခံသည့်ငွေသည် အစုရှယ်ယာတစ်ခု၏ မူလတန်ဖိုး လေးပုံတစ်ပုံထက် မပိုစေရ။ သို့မဟုတ် ယခင်က နောက်ဆုံးခေါ်ယူတောင်းခံထားချက်အရ ပေးသွင်းရမည့်အချိန်၏ နောက်တစ်လအတွင်း ပေးသွင်းစေရန် မဖြစ်စေရ။

၁၂။ ဒါရိုက်တာများသည် အစုရှယ်ယာများအတွက် ကြေညာထားသည့်အမြတ်ဝေစု သို့မဟုတ် ဆုကြေးအားလုံးကို အဆိုပါရှယ်ယာများအပေါ် ပေးရန်ကျန်ရှိသည့်ခေါ်ယူငွေနှင့် အရစ်ကျပေးသွင်းရန်အတွက် အသုံးပြုနိုင်သည်၊

## အစုရှယ်ယာ လွှဲပြောင်းခြင်းနှင့် တစ်ဆင့်လွှဲပြောင်းခြင်း

၁၃။ လက်ရှိအစုရှယ်ယာများအား ဤကုမ္ပဏီ၏ဒါရိုက်တာများက ဆုံးဖြတ်ထားသောဈေးဖြင့် ရှယ်ယာလွှဲပြောင်းရန် ဦးစားပေးရမည်။ ဤကဲ့သို့ဦးစားမပေးဘဲ အပြင်လူများကို အစုရှယ်ယာလွှဲပြောင်းခြင်းမပြုရ။

၁၄။ မည်သည့် အစုရှယ်ယာလွှဲပြောင်းခြင်း စာချုပ်စာတမ်းကိုမဆို အများသုံးပုံစံတွင် ဖြစ်စေ၊ ဒါရိုက်တာများက ပြဋ္ဌာန်းသော အခြားပုံစံတွင်ဖြစ်စေ၊ စာဖြင့်ရေးသားထားရမည့်အပြင် လွှဲပြောင်းသူနှင့် လွှဲပြောင်းပေးခြင်းခံရသူနှစ်ဦးစလုံး လက်မှတ်ရေးထိုးရမည်။ လွှဲပြောင်းသူသည် အစုရှင်များမှတ်ပုံတင်စာအုပ်တွင် အစုရှယ်ယာလွှဲပြောင်းပေးခြင်းခံရသူ၏ အမည်ကို ထည့်သွင်းရေးမှတ်ခြင်းမပြုမီအချိန်အထိ အစုရှယ်ယာပိုင်ရှင် အဖြစ်ဖြင့် ဆက်လက်တည်ရှိနေသည်ဟု မှတ်ယူရမည်။

၁၅။ ဒါရိုက်တာများသည် အကြောင်းတစ်စုံတစ်ရာဖော်ပြခြင်းမပြုဘဲ မိမိတို့သဘောအတိုင်း အစုရှယ်ယာလွှဲပြောင်းခြင်းကို အကြေအလည်ပေးဆောင်ပြီးသော အစုရှယ်ယာဖြစ်လင့်ကစား ငြင်းဆိုနိုင်သည်။

၁၆။ ဒါရိုက်တာများက မည်သည့်အစုရှယ်ယာကိုမဆို လွှဲပြောင်းခြင်းအတွက် ငြင်းပယ်လျှင် ထိုကဲ့သို့ ငြင်းပယ်လိုက်ကြောင်း သိရှိရန်အတွက် အစုရှယ်ယာလွှဲပြောင်းခြင်းစာချုပ်ကို ဤကုမ္ပဏီသို့ပေးပို့သည့်နေ့မှစ၍ နှစ်လအတွင်း လွှဲပြောင်းပေးသူနှင့် လွှဲပြောင်းပေးခြင်းခံရသူများထံသို့ နို့တစ်စာ ပေးပို့ရမည်။

၁၇။ ဤကုမ္ပဏီ၏အဖွဲ့ဝင်တစ်ဦးဦးသေဆုံးလျှင် သေဆုံးသူသည် ပူးတွဲပိုင်ရှင်ဖြစ်ပါက မသေဘဲကျန်ရစ်သူ သို့မဟုတ် ကျန်ရစ်သူများသာလျှင်လည်းကောင်း၊ သေဆုံးသူသည် တစ်ဦးတည်းပိုင်ရှင်ဖြစ်က သေဆုံးသူ၏သေတမ်းစာအရ အတည်ပြုသူ သို့မဟုတ် အမွေထိန်းသာလျှင် လည်းကောင်း၊ ထိုသေဆုံးသူ၏ အစုရှယ်ယာများကို ရပိုင်ခွင့်ရှိသူ အဖြစ်ဖြင့် ကုမ္ပဏီက အသိအမှတ်ပြုရမည်။ သို့ရာတွင် ဤစည်းမျဉ်းပါ မည်သည့်အချက်ကမျှ ထိုသေဆုံးသွားသူနှင့် ပူးတွဲပိုင်ဆိုင်သော အစုရှယ်ယာတစ်ခုခုနှင့်စပ်လျဉ်း၍ ကြွေးမြီတာဝန်တစ်ခုခုမှ သေဆုံးသွားသော ပူးတွဲပိုင်ရှင်၏ ပစ္စည်းကို ကင်းလွတ်ခွင့် မပြုရ။

၁၈။ အစုရှင်တစ်ဦး သေဆုံးသွားခြင်းကြောင့် မည်သည့်ပုဂ္ဂိုလ်မဆို အစုရှယ်ယာရပိုင်ခွင့်ရှိသူ တစ်ဦးဦးသည် အစုရှယ်ယာများနှင့်စပ်လျဉ်း၍ ရရန်ရှိသော အမြတ်ဝေစုများကိုသော်လည်းကောင်း၊ မှတ်ပုံတင်အစုရှယ်ယာပိုင်ရှင် တစ်ဦးအနေဖြင့် ရသင့်ရထိုက်သကဲ့သို့ ရပိုင်ခွင့် ရှိစေရမည်။ သို့ရာတွင် ၎င်းသည် အဆိုပါ အစုရှယ်ယာနှင့် စပ်လျဉ်း၍ မိမိ၏အစုရှယ်ယာကိုမှတ်ပုံတင်ခြင်း မပြုလုပ်သေးပါက ဤကုမ္ပဏီကပေးသော နို့တစ်စာ ရပိုင်ခွင့်သော် လည်းကောင်း၊ ကုမ္ပဏီအစည်းအဝေးများတွင် တက်ရောက်ခွင့်သော် လည်းကောင်း၊ မဲပေးခွင့်သော် လည်းကောင်း မရှိသည့်အပြင် မိမိ၏ ရထိုက်သောအခွင့်အရေးများ၊ သက်ညှာသည့် အခွင့်အရေးများကိုလည်း ပိုင်ဆိုင်ခွင့် မရှိစေရ။

၁၉။ ဤကုမ္ပဏီသည် လွှဲပြောင်းခြင်းမှတ်ပုံတင်စာအုပ်တစ်အုပ်ထားရှိပြီး ထိုစာအုပ်တွင် အစုရှယ်ယာလွှဲပြောင်းခြင်းဆိုင်ရာ သို့မဟုတ် တစ်ဆင့်လွှဲပြောင်းခြင်းဆိုင်ရာ အချက်အလက်များကို ထည့်သွင်းရေးသားထားရမည်။

## အစုရှယ်ယာများသိမ်းယူခြင်း

၂၀။ အဖွဲ့ဝင်တစ်ဦးသည် တောင်းခံငွေ တစ်ခုခုကိုဖြစ်စေ၊ တောင်းခံငွေ တစ်ခုခု၏ အရစ်ကျ ပေးခြင်းကို ဖြစ်စေ၊ အဆိုပါပေးခြင်းအတွက် သတ်မှတ်ထားသောနေ့ရက်တွင်မပေးဘဲ ပျက်ကွက်လျှင် ဒါရိုက်တာများသည် ထိုသို့ဖြစ်ပြီးနောက် မည်သည့်အချိန်၌မဆို အဆိုပါတောင်းခံငွေ၏ သို့တည်းမဟုတ် အရစ်ကျ ပေးခြင်း၏ အချို့တစ်ဝက်ကိုပေးရန် ကျန်ရှိနေသည့်အချိန်အတွင်းတွင် မပေးရသေးသော တောင်းခံငွေ၊ ရှိသမျှကို ဖြစ်စေ၊ အရစ်ကျပေးခြင်းရှိသမျှကို ဖြစ်စေ ကျသင့်နိုင်ငွေချေရှိသော အတိုးနှင့်တကွ ပေးဆပ်ရန် ဆင့်ဆိုသော နို့တစ်စာကို အဆိုပါသူထံသို့ ချအပ်နိုင်သည်။

၂၁။ အဆိုပါနို့တစ်စာတွင် နေ့ရက်သတ်မှတ်၍ (နို့တစ်စာ ထုတ်ဆင့်သည့်နေ့မှ သတ်မှတ်ရက် ကုန်ဆုံးသော နေ့ သို့တည်းမဟုတ် ၁၄ ရက်ထက် မစောသော နေ့ရက်) ယင်းနေ့ရက်ထက်မစော၍သော်လည်းကောင်း၊ ထိုနေ့တွင်သော်လည်းကောင်း ငွေပေးချေရန် သတ်မှတ်ကြောင်း၊ အကယ်၍ ပျက်ကွက်ပါက ယင်းပျက်ကွက်မှုအတွက် အဆိုပါ အစုရှယ်ယာများကို သိမ်းယူခြင်းခံနိုင်မှုစေရန် အကြောင်းရှိကြောင်း ဖော်ပြပါရှိရမည်။

၂၂။ မည်သည့်အဆိုပါနို့တစ်စာပါ လိုအပ်ချက်များအတိုင်းမဆို လိုက်နာဆောင်ရွက်ခြင်းမရှိပါက ပေးအပ်ပြီးသော နို့တစ်စာကရည်ညွှန်းသော မည်သည့်အစုရှယ်ယာများကိုမဆို နို့တစ်စာကရည်ညွှန်းသော ငွေပေးချေရန်ကိစ္စ မပေးချေမီကာလအတွင်း မည်သည့်အချိန်၌မဆို ဒါရိုက်တာများ၏ အစည်းအဝေး ဆုံးဖြတ်ချက်တစ်ရပ်အရ သိမ်းယူနိုင်သည်။

၂၃။ သိမ်းယူခြင်းခံရသောအစုရှယ်ယာတစ်ခုကို ရောင်းချခြင်းဖြင့်ဖြစ်စေ၊ သို့မဟုတ် ဒါရိုက်တာများက သင့်တော်မည်ဟု မှတ်ယူသည့်နည်းလမ်းအတိုင်းဖြစ်စေ စီမံခန့်ခွဲနိုင်သည်၊ ရောင်းချခြင်း သို့တည်းမဟုတ် ဒါရိုက်တာများက စီမံခန့်ခွဲခြင်းမပြုမီမည်သည့်အချိန်၌မဆိုဒါရိုက်တာများကသင့်တော်သည်ဟုမှတ်ယူလျှင် အစုရှယ်ယာသိမ်းယူခြင်းကို ပယ်ဖျက်နိုင်သည်။

၂၄။ အစုရှယ်ယာသိမ်းယူခြင်းခံရသူသည် အဆိုပါအစုရှယ်ယာကိုကိုယ်စားပြုသော အဖွဲ့ဝင်တစ်ဦးအဖြစ်မှ ရပ်စဲခြင်းခံရမည်။ သို့သော် ရပ်စဲခြင်းခံရသည့်နေ့တွင် အဆိုပါ အစုရှယ်ယာများ၏တန်ဖိုးအလိုက် ကုမ္ပဏီသို့ ပစ္စုပ္ပန်ကာလအတွင်း ထိုသူကပေးချေရမည့် ငွေကြေးအားလုံးနှင့်ပတ်သက်၍ ပေးရန်တာဝန်များသည် ဆက်လက်တည်ရှိနေမည်၊ သို့သော် အဆိုပါအစုရှယ်ယာများအတွက် အမည်ခံတန်ဖိုးပမာဏအပြည့်အဝကို ကုမ္ပဏီမှ ရရှိပြီးသည့်အချိန်မှစ၍ ထိုသူအပေါ်တွင် ယင်းပေးချေရန်တာဝန်သည် ဆက်လက်တည်ရှိတော့မည်မဟုတ်။

၂၅။ အစုရှယ်ယာများကို ဖော်ပြပါနေ့ရက်တွင် ကုမ္ပဏီကသိမ်းယူပြီးဖြစ်ကြောင်း စာဖြင့်ထုတ်ပြန်သောကြေညာချက်ကို ကုမ္ပဏီ၏ဒါရိုက်တာတစ်ဦးကထုတ်ပြန်ကြောင်း စိစစ်အတည်ပြုပြီးခြင်းသည် အစုရှယ်ယာပိုင်ဆိုင်ခွင့်ရှိကြောင်း တောင်းဆိုလာသူအားလုံးအပေါ်တွင် ဆန့်ကျင်သော အပြီးသတ်သက်သေခံချက်ဖြစ်စေရမည်။ အဆိုပါ အစုရှယ်ယာကို သိမ်းယူကြောင်း ကြေညာချက်သည်လည်းကောင်း၊ ထို့ပြင် ရောင်းချခြင်း သို့တည်းမဟုတ် စီမံခန့်ခွဲပေးခြင်းတို့အတွက်အကယ်၍အဖိုးစားနားရရှိခဲ့လျှင် ကုမ္ပဏီကထုတ်ပေးထားသော ဖြတ်ပိုင်းသည်လည်းကောင်း၊ အစုရှယ်ယာပိုင်ဆိုင်ခြင်းအတွက် တရားဝင်သောအထောက်အထားများဖြစ်စေပြီး ထိုသို့ဝယ်ယူသူ သို့မဟုတ် စီမံခန့်ခွဲခြင်းဖြင့် ရယူသူကို အဆိုပါအစုရှယ်ယာပိုင်ဆိုင်သူအဖြစ် မှတ်ပုံတင်ပေးရမည်၊ ဝယ်ယူရန် ပေးငွေ (ရှိခဲ့လျှင်)ကို မည်ကဲ့သို့သုံးစွဲခြင်းအပြင် အစုရှယ်ယာကိုသိမ်းယူရာတွင် ဆောင်ရွက်မှုများသည်လည်းကောင်း၊ ရောင်းချခြင်း သို့တည်းမဟုတ် စီမံခန့်ခွဲရာတွင်လည်းကောင်း နည်းလမ်းမကျခြင်းနှင့် လုပ်နည်းလုပ်ဟန် တရားမဝင်ခြင်းတို့သည် အဆိုပါ အစုရှယ်ယာပိုင်ဆိုင်လာသူ၏ပိုင်ဆိုင်ခွင့်ကို ထိခိုက်ခြင်းမရှိစေရ။

၂၆။ အဆိုပါ အစုရှယ်ယာသိမ်းယူခြင်းဆိုင်ရာ စည်းမျဉ်းများပါပြဋ္ဌာန်းချက်များသည် အစုရှယ်ယာတစ်ခုကို ထုတ်ပေးစဉ်ကတည်းက သတ်မှတ်ချက်များအရ ရှယ်ယာ၏ပမာဏပေါ်မူတည်၍ဖြစ်စေ၊ ပရီမီယံကြေး ပေးချေသည့်နည်းလမ်းအားဖြင့်ဖြစ်စေ ပေးချေရန် သတ်မှတ်ချိန်ရောက်ရှိလာပြီးဖြစ်သော်လည်း မည်သည့်ငွေကြေးမျှမပေးချေရသေးသည့် ရှယ်ယာများ၊ ကိစ္စရပ်များတွင်ပေးချေရန် နို့တစ်စာဖြင့် နည်းလမ်းတကျ တောင်းခံပါမှတစ်ရပ်ပြုပြီးသကဲ့သို့ အကျိုးသက်ရောက်စေရမည်။

မတည်ငွေရင်းပြောင်းလဲခြင်း

၂၇။ ဤကုမ္ပဏီ၏အထွေထွေအစည်းအဝေးမှခွင့်ပြုချက်ဖြင့် ကုမ္ပဏီ၏ဒါရိုက်တာများသည် အချိန်ကာလအားလျော်စွာ ဤကုမ္ပဏီ၏မတည်ငွေရင်းကို အစည်းအဝေးဆုံးဖြတ်ချက်အတိုင်း တိုးမြှင့်၍ အစုရှယ်ယာ၏တန်ဖိုးကို ခွဲခြားသတ်မှတ်နိုင်သည်။

၂၈။ ကုမ္ပဏီသည် သာမန်ဆုံးဖြတ်ချက်ဖြင့်–

(က) မတည်ငွေရင်းကို လက်ရှိအစုရှယ်ယာထက်ပိုသော ငွေပမာဏရှိသည့်အစုရှယ်ယာများအဖြစ် ပေါင်းစည်းနိုင်သည်၊ ခွဲခြားသတ်မှတ်နိုင်သည်။

(ခ) လက်ရှိအစုရှယ်ယာများကို သို့မဟုတ် အဆိုပါအနက် တစ်ခုခုကို သင်းဖွဲ့မှတ်တမ်းက သတ်မှတ်ထားသည့် ငွေထက်နည်းသော ငွေပမာဏရှိသည့်အစုရှယ်ယာများအဖြစ် ထပ်မံခွဲစိတ်နိုင်သည်၊ သို့သော် ဤကဲ့သို့ ခွဲစိတ်ခြင်းသည် မြန်မာနိုင်ငံ ကုမ္ပဏီများအက်ဥပဒေ ပုဒ်မ ၅၀ (၁)(ဃ)၏ ပြဋ္ဌာန်းသတ်မှတ်ချက်များနှင့်အညီ ဖြစ်စေရမည်။

(ဂ) ကုမ္ပဏီကဆုံးဖြတ်ချက်ချသောနေ့တွင် တစ်ဦးတစ်ယောက်သောသူကမယူသော သို့မဟုတ် ယူရန် သဘောတူပြီးမဟုတ်သောအစုရှယ်ယာများကိုဖျက်သိမ်းနိုင်သည်။

၂၉။ ကုမ္ပဏီသည် အထူးဆုံးဖြတ်ချက်ဖြင့် တရားဥပဒေများက ပေးထားသော အခွင့်အာဏာများအရ မိမိ၏မတည် ငွေရင်းကို ကြိုက်သလိုလျှော့ချနိုင်သည်။

**အထွေထွေအစည်းအဝေး**

၃၀။ ဤကုမ္ပဏီကို ဖွဲ့စည်း တည်ထောင်ပြီးသည့်နေ့မှ စ၍ တစ်ဆယ့်ရှစ်လ အတွင်း အထွေထွေ အစည်းအဝေး ခေါ်ဆိုရမည်၊ ၎င်းနောက် ပြက္ခဒိန်နှစ်၊ ပြက္ခဒိန်နှစ်တွင် တစ်ကြိမ်ကျ သို့ရာတွင် အထွေထွေ အစည်းအဝေး နှစ်ခု အကြားတွင် တစ်ဆယ့်ငါးလမကျော်လွန်စေဘဲ သင့်တော်သည့် အချိန်နှင့် နေရာတွင် ဤကုမ္ပဏီ၏ လက်ရှိ ဒါရိုက်တာများကဆုံးဖြတ်သည့်အတိုင်း အထွေထွေအစည်းအဝေး ခေါ်ဆိုကျင်းပရမည်။

၃၁။ အထက်ဖော်ပြပါ အထွေထွေအစည်းအဝေးကို သာမန်အထွေထွေအစည်းအဝေးဟုခေါ်၍ အခြား အထွေထွေ အစည်းအဝေးကို အထူးအထွေထွေအစည်းအဝေးဟု ခေါ်ရမည်၊

၃၂။ ဒါရိုက်တာများသည် မိမိတို့သင့်တော်မည်ထင်သည့်အချိန်တွင် အထူး အထွေထွေအစည်းအဝေးကို ဆင့်ခေါ်နိုင် သည်၊ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပုဒ်မ (၇၈) အရ တောင်းဆိုသူများက အထူးအထွေထွေအစည်း အဝေးကို ခေါ်ဆိုရန်တောင်းဆိုလျှင်ဖြစ်စေ၊ အစည်းအဝေးကျင်းပရန် ပျက်ကွက်လျှင်ဖြစ်စေ အထူး အထွေထွေ အစည်းအဝေးကို ဆင့်ခေါ်ပေးရမည်၊

**အထွေထွေအစည်းအဝေးတွင် ဆောင်ရွက်ချက်များ**

၃၃။ အထွေထွေအစည်းအဝေး ခေါ်ဆိုရန်အတွက် ယင်းသို့ မခေါ်ဆိုမီ အနည်းဆုံး (၂၁)ရက် အချိန်ပေး၍ နို့တစ်စာပေါ်တွင် ကျင်းပမည့် အချိန်၊ နေရာ၊ နာရီတို့ကိုဖော်ပြပြီး ဆင့်ဆိုရမည်၊ အထူးလုပ်ငန်းများ ဆွေး နွေးရန် ရှိပါက အကြမ်းအားဖြင့် ထိုလုပ်ငန်းအကြောင်းကိုဖော်ပြပြီး ကုမ္ပဏီ၏ နို့တစ်စာရသင့်သည့် ပုဂ္ဂိုလ် များထံသို့ ပေးပို့ရမည်၊ သို့ရာတွင် နို့တစ်စာကို အမှတ်တမဲ့ ပေးပို့ရန် မေ့သွားလျှင်သော် လည်းကောင်း၊ ကုမ္ပဏီ၏အဖွဲ့ဝင်တစ်ဦးဦးက မရလျှင်သော်လည်းကောင်း ယင်းအကြောင်းများကြောင့် အစည်းအဝေး ဆုံးဖြတ် ချက်များနှင့် အထွေထွေအစည်းအဝေးကြီး၌ ဆောင်ရွက်ချက်များသည် ပျက်ပြယ်ခြင်း မရှိစေရ၊ ဤကုမ္ပဏီ၏ အဖွဲ့ဝင်များအားလုံးက အစည်းအဝေးခေါ်ယူရေးနှင့်ပတ်သက်၍ စာရေးသဘောတူညီချက်ရရှိခဲ့သော် နို့တစ်စာ ကို အဖွဲ့ဝင်များက သင့်တော်မည်ထင်သည့် တိုတောင်းသောအချိန် ကန့်သတ်၍ ဆင့်ဆိုနိုင်သည်၊

၃၄။ အထူးအထွေထွေအစည်းအဝေးတွင် ဆောင်ရွက်ခဲ့သော လုပ်ငန်းများအားလုံးကို အထူးလုပ်ငန်းများဟု မှတ်ယူ ရမည်။ ထို့အပြင် အမြတ်ဝေစုခွဲဝေပေးခြင်း၊ ငွေစာရင်းနှင့် လက်ကျန်ရှင်းတမ်းတို့ကိုလည်းကောင်း၊ ဒါရိုက်တာ များ၏ အစီရင်ခံစာနှင့် စာရင်းစစ်များ၏ အစီရင်ခံစာများကိုလည်းကောင်း လက်ကျန်ရှင်းတမ်းနှင့် ပူးတွဲပါရှိ သော အခြားစာတမ်းများကိုလည်းကောင်း ဆောင်ရွက်ခြင်း၊ ဒါရိုက်တာများရွေးချယ်ခြင်းကိစ္စတို့မှ တစ်ပါး သာမန်အစည်းအဝေးတွင်ဆောင်ရွက်သောလုပ်ငန်းအားလုံးကိုလည်း အထူးကိစ္စများဟု မှတ်ယူရမည်၊

၃၅။ အထွေထွေအစည်းအဝေးကြီးက လုပ်ငန်းများကို စတင်ဆောင်ရွက်သည့်အခါ အစည်းအဝေး ထမြောက်သည့် ဦးရေမတက်လျှင် မည်သည့် လုပ်ငန်းကိုမဆို အစည်းအဝေးကြီးတွင် မဆောင်ရွက်ရ၊ မည်သည့် ကိစ္စအားလုံး အတွက်ကိုမဆို အစည်းအဝေးထမြောက်သည့်ဦးရေတွင် ၎င်းပုဂ္ဂိုလ်အနည်းဆုံး (၅) ဦး ရှိရမည်၊ ထိုသူများမှာ မဲပေးပိုင်ခွင့်နှင့် အစည်းအဝေးသို့ ကိုယ်တိုင်တက်ရောက်သော အဖွဲ့ဝင်များ သို့မဟုတ် မဲပေးပိုင်ခွင့်ရှိသော အဖွဲ့ ဝင်များ၏ကိုယ်စား "လွှဲမဲ"ပေးခွင့်ရှိသူများ သို့မဟုတ် ကိုယ်စားလှယ်များဖြစ်စေရမည်။

၃၆။ အထွေထွေအစည်းအဝေးကြီးကျင်းပရန် သတ်မှတ်ထားသောအချိန်မှ နာရီဝက်အတွင်း အစည်းအဝေးထမြောက် သည့်ဦးရေမတက်ရောက်လျှင် ဤကုမ္ပဏီ၏ အဖွဲ့ဝင်များ၏ တောင်းဆိုချက်များဖြင့် ကျင်းပရခြင်း ဖြစ်ပါက အစည်းအဝေးကြီးကို ဖျက်သိမ်းရမည်၊ အခြားကိစ္စအားလုံးတွင် နောက်တစ်ပတ် တစ်နေ့တည်း၊ တစ်ချိန်တည်း တစ်နေရာတည်းသို့ ရွှေ့ဆိုင်းသည်ဟု မှတ်ယူရမည်၊ ထိုသို့ ရွှေ့ဆိုင်းထားသော အစည်းအဝေးအတွက် သတ်မှတ်ထားသောအချိန်မှ နာရီဝက်အတွင်း အစည်းအဝေး ထမြောက်သည့်ဦးရေ မရောက်ရှိခဲ့သော် တက် ရောက်သော အဖွဲ့ဝင်တို့သည် အစည်းအဝေးထမြောက်သည့်ဦးရေ ဖြစ်ရမည်။

၃၇။ မည်သည့် အထွေထွေအစည်းအဝေးတွင်မဆို တက်ရောက်သည့် ဒါရိုက်တာ [illegible] တာအဖြစ်ဖြင့် ဆောင်ရွက်ရမည်။ သို့ရာတွင် ထိုပုဂ္ဂိုလ် သို့မဟုတ် ဒါရိုက်တာ [illegible] ဆောင်ရွက်လျှင် တက်ရောက်ကြသော မဲပေးနိုင်သည့် အဖွဲ့ဝင်များက မိမိတို့ [illegible] တစ်ဦးဦးအား [illegible] တာအဖြစ် ရွေးချယ် တင်မြှောက်နိုင်သည်။

၃၈။ အစည်းအဝေး၌ မဲခွဲရာတွင် တူညီနေပါက အစည်းအဝေးသဘာပတိသည် [illegible] အနိုင်မဲပေးနိုင်ခွင့်ရှိသည်။

ဒါရိုက်တာများ

၃၉။ ဒါရိုက်တာများ အနည်းဆုံးဦးရေသည် (၂)ဦးထက် မလျော့နည်းစေရ၊ အများဆုံးဦးရေသည် (၇)ဦးထက် မပိုစေရ။

၄၀။ ပထမဒါရိုက်တာများမှာ-

၁။ ဦးအောင်နိုင်

၂။ ဦးထွန်းမြင့်နိုင် နှင့်

၃။ ဦးကျင်ထွန်း တို့ဖြစ်ကြပါသည်။

ဒါရိုက်တာ သို့မဟုတ် ဒါရိုက်တာများသည် နောက်ပေါ်ကျင်းပမည့် သာမန် အထွေထွေ အစည်းအဝေးတွင် နုတ်ထွက်ပေးရမည်၊ သို့ရာတွင်ပြန်လည် အရွေးခံနိုင်ခွင့်ရှိသည်။

၄၁။ ဒါရိုက်တာများထဲမှ ရာထူးတခုခုလစ်လပ်ခဲ့လျှင် ဒါရိုက်တာအသစ်အစားထိုးခန့်ထားခြင်းမပြုရ။ နောင်တွင် ကျင်းပမည့် သာမန်အစည်းအဝေးက သာမန်ဆုံးဖြတ်ချက်ဖြင့် ဒါရိုက်တာအသစ်များ ခန့်ထားရမည်။

၄၂။ ဤကုမ္ပဏီတွင် အစုရှယ်ယာပေါင်း ၁၀ (တစ်ဆယ်) ထက်မနည်း ပိုင်ဆိုင်ထားသူသာလျှင် ဒါရိုက်တာအဖြစ်ဖြင့် ဆောင်ရွက်ရန်အရည်အချင်း ပြည့်မီသည်ဟု မှတ်ယူရမည်။

၄၃။ ဒါရိုက်တာများသည် မိမိတို့ခံစားခွင့်အကျိုးအတွက် အထွေထွေ အစည်းအဝေးကြီးက တစ်နည်းနည်းဖြင့် ပြောင်းလဲ မချင်း မိမိတို့ကိုယ်တိုင် ဆုံးဖြတ်နိုင်သည်။

၄၄။ အကယ်၍ ဒါရိုက်တာတစ်ဦးသည် အောက်ပါအကြောင်းတစ်ရပ်နှင့် ကိုက်ညီသော် ဒါရိုက်တာအဖြစ်မှနုတ်ထွက်ပြီးဖြစ်သည်ဟု မှတ်ယူရမည်။

(က) စီရင်ပိုင်ခွင့်အာဏာရှိသော တရားရုံးတစ်ခုခုက စိတ်ပေါ့သွပ်သူတစ်ဦးအဖြစ် ဆုံးဖြတ်လျှင်၊

(ခ) လူမွဲစာရင်းဝင်အဖြစ် ဆုံးဖြတ်ခံရလျှင်၊

(ဂ) မိမိပိုင်သောအစုရှယ်ယာများနှင့် စပ်လျဉ်း၍သော်လည်းကောင်း၊ တောင်းခံငွေများကို တောင်းခံသည့် နေ့မှ နှစ်လအတွင်း မပေးနိုင်လျှင်၊

(ဃ) ဒါရိုက်တာအဖြစ်မှ နုတ်ထွက်ကြောင်း စာဖြင့်ရေးသား၍ ကုမ္ပဏီ၏ရုံးတွင် ပေးပို့ပြီးနောက် ကုမ္ပဏီ၏ လက်ရှိဒါရိုက်တာ တစ်ဦးဦးက ထိုနုတ်ထွက်စာကို တရားဝင်လက်ခံရရှိလျှင်၊

၄၅။ ဒါရိုက်တာများအားလုံးက စာဖြင့်ရေး၍ ပြဋ္ဌာန်းဆုံးဖြတ်ခဲ့သော် ဒါရိုက်တာအဖွဲ့က လုပ်ရိုးလုပ်စဉ် အစည်းအဝေးခေါ်ဆိုပြီး ပြဋ္ဌာန်းဆုံးဖြတ်ချက် ချမှတ်သကဲ့သို့ တရားဝင်စေရမည်။

၄၆။ အလုပ်ကိစ္စများဆောင်ရွက်ရန် တက်ရောက်ရမည့်ဒါရိုက်တာများဦးရေကို ဒါရိုက်တာများက သတ်မှတ်နိုင်သည်။ ယင်းသို့သတ်မှတ်ထားချက် မရှိလျှင် ဒါရိုက်တာနှစ်ဦးတက်ရောက်က အလုပ်ကိစ္စများဆောင်ရွက်ရန် အထမြောက်သည်ဟု မှတ်ယူရမည်။

## ဒါရိုက်တာများ၏ လုပ်ပိုင်ခွင့်နှင့် တာဝန်များ

၄၇။ ဤကုမ္ပဏီ၏ လုပ်ငန်းများကို ဒါရိုက်တာများက စီမံအုပ်ချုပ်ရမည်။ ဤကုမ္ပဏီကို ဖွဲ့စည်းတည်ထောင်ခြင်း၊ မှတ်ပုံတင်ခြင်းတို့အတွက် ကုန်ကျစရိတ်အားလုံးကို မိမိတို့က သင့်တော်သည်ဟု ထင်မြင်သည့်အတိုင်း ပေးချေနိုင်သည်။ အထွေထွေ အစည်းအဝေးကြီးတွင် ဤကုမ္ပဏီက ဆောင်ရွက်ရမည်ဟူ၍လည်းကောင်း၊ မြန်မာနိုင်ငံကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များအရ လည်းကောင်း၊ ဤစည်းမျဉ်းများက လည်းကောင်း၊ ပေးထားသည့် အာဏာများက မချုပ်ချယ်ခဲ့သော် ဤကုမ္ပဏီက သုံးစွဲနိုင်သော အခွင့်အာဏာ အားလုံးကို ဒါရိုက်တာများက သုံးစွဲနိုင်သည်။ ဤကုမ္ပဏီက ပြုလုပ်နိုင်သော လုပ်ငန်းအားလုံးကို ကုမ္ပဏီကိုယ်စား ပြုလုပ်နိုင်သည်။ ဒါရိုက်တာများ ဆောင်ရွက်ခဲ့သော ကိစ္စများသည် ကုမ္ပဏီ၏ အထွေထွေ အစည်းအဝေး ဆုံးဖြတ်ချက်များကြောင့် ပျက်ပြယ်ခြင်း မရှိစေရ။ ဆောင်ရွက်ခဲ့ပြီးသော ကိစ္စများကို အထွေထွေ အစည်းအဝေးတွင် တင်ပြဆုံးဖြတ်ခြင်းမပြုသည့်အခါ တရားဝင်သကဲ့သို့ တရားဝင်စေရမည်။

၄၈။ ဒါရိုက်တာများသည် ဤကုမ္ပဏီ၏ ကိစ္စအလို့ငှာ အချိန်ကာလအားလျော်စွာ မိမိတို့သင့်တော်သည်ဟု ထင်မြင်သောငွေကို ချေးယူနိုင်သည်။ သို့မဟုတ် ကုမ္ပဏီအတွက် လက်ခံနိုင်သည်။ ထို့ပြင် ဒါရိုက်တာများသည် ဤကုမ္ပဏီ၏ ပစ္စည်းအားလုံးအပေါ်တွင် လည်းကောင်း၊ တစ်ခုခုအပေါ်တွင် လည်းကောင်း၊ ပေါင်နှံခြင်းဖြင့်ဖြစ်စေ၊ တာဝန်တင်ထားခြင်းဖြင့် ဖြစ်စေ၊ ဒါရိုက်တာများက သင့်တော်သည်ဟု ထင်မြင်သော ငွေကို ပြန်လည်ပေးနိုင်သည်။ သို့မဟုတ် ထုတ်ပေးခြင်းအတွက် ဆောင်ရွက်နိုင်သည်။

၄၉။ ဤကုမ္ပဏီ၏ ငွေသားအားလုံးကိုဖြစ်စေ၊ ငွေပေးလက်မှတ်များကိုဖြစ်စေ၊ ငွေစက္ကူများကို ဖြစ်စေ၊ ဤကုမ္ပဏီ၏ အမည်ဖြင့် စာရင်းဖွင့်ထားသော ကုမ္ပဏီ၏ဘဏ်သို့ ပေးသွင်းရမည်။ သို့မဟုတ် အပ်နှံထားရမည်။

၅၀။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေပါ ပြဋ္ဌာန်းချက်များကို လိုက်နာဆောင်ရွက်ရန်နှင့် ဒါရိုက်တာများအား ကုမ္ပဏီ၏ အုပ်ချုပ်မှုတွင် ကူညီရန် ဒါရိုက်တာများသည် အတွင်းရေးမှူး တစ်ဦးကို ခန့်ထားနိုင်သည်။ ၎င်း၏ လစာငွေကိုလည်း သတ်မှတ်ပေးနိုင်သည်။ ၎င်းအပြင် အတွင်းရေးမှူးအား အခြားအလုပ် ဝတ္တရားများကို အခါအားလျော်စွာ ခွဲဝေချထားနိုင်သည်။

၅၁။ ဒါရိုက်တာများသည် သင့်တော်သလို အစည်းအဝေး လုပ်ငန်းများဆောင်ရွက်ခြင်း၊ အစည်းအဝေး ရွှေ့ဆိုင်းခြင်း၊ အစည်းအဝေး၌ စီမံခန့်ခွဲခြင်းတို့ကို အချင်းချင်းတိုင်ပင်၍ ဆောင်ရွက်နိုင်သည်။ ထို့ပြင် အစည်းအဝေး ထမြောက်သည့် ဦးရေကိုလည်း သတ်မှတ်နိုင်သည်။ အစည်းအဝေး၌ မဲအများစု၏ ဆုံးဖြတ်ချက်သည် အတည်ဖြစ်ရမည်။ မဲအရေအတွက် တူညီနေလျှင် သဘာပတိက ထောက်ခံမဲ သို့မဟုတ် အနိုင်မဲပေးနိုင်သည်။

၅၂။ မြန်မာနိုင်ငံ ကုမ္ပဏီများ အက်ဥပဒေ ပြဋ္ဌာန်းချက်များနှင့်အညီ ဒါရိုက်တာများက မှတ်တမ်းစာအုပ်များကို ထားရှိစေရမည်။

၅၃။ ဤစည်းမျဉ်းများက အပ်နှင်းထားသော ယေဘုယျအာဏာများကို ထိခိုက်ခြင်း မရှိစေဘဲ ဒါရိုက်တာများသည် အောက်ဖော်ပြပါ အခွင့်အာဏာများ ရှိစေရမည်ဟု ကြေညာလိုက်သည်။

(က) ဤကုမ္ပဏီကပြုသော သို့တည်းမဟုတ် ကုမ္ပဏီ၏ အပေါ်တွင်ပြုသော ကိစ္စတစ်ခုခုကို စွဲဆိုရန်၊ ခုခံချေပရန်၊ ခုံသမာဓိက ဆုံးဖြတ်ခြင်းပြုရန်၊ စွန့်လွှတ်ရန်နှင့် စေ့စပ်ကြေအေးရန်။

(ခ) ဤကုမ္ပဏီအတွက်သော်လည်းကောင်း၊ ကိုယ်စားသော်လည်းကောင်း၊ အထူးလုပ်ငန်းကို တာဝန်ယူသော ဒါရိုက်တာ တစ်ဦးဦးအား သို့မဟုတ် သဘာပတိအဖြစ်ဖြင့် ဖြစ်စေ၊ ဘဏ္ဍာရေး ဒါရိုက်တာအဖြစ်ဖြင့် ဖြစ်စေ၊ အုပ်ချုပ်မှုဒါရိုက်တာ အဖြစ်ဖြင့် ဖြစ်စေ၊ ဆောင်ရွက်သော ဒါရိုက်တာတစ်ဦးဦးအား ဒါရိုက်တာများ၏ အခကြေးငွေများအပြင် အထူးအပိုအခကြေးငွေများပေးရန်၊ ထို့ပြင် ယင်းဒါရိုက်တာများအား ကုမ္ပဏီ၏လုပ်ငန်းများနှင့် လုပ်ငန်းမှ ရရှိသည့်အမြတ်ငွေ သို့မဟုတ် အထွေထွေ အမြတ်ငွေများမှ အကျိုးခံစားခွင့် ရရှိစေရန်။

# အရှေ့ဝါး(လ်)ကုမ္ပဏီလီမိတက်

| **<u>စီမံခန့်ခွဲမှုစရိတ်</u>** | (ဇယား-၁၄) |
| --- | --- |
| လစာ | ၂၂၆၈၀၀-၀၀ |
| ရုံးခန်းပြုပြင်စရိတ် | ၃၀၀၀-၀၀ |
| အိမ်ခန်းငှားခ | ၁၂၀၀၀၀-၀၀ |
| စာရေးကိရိယာနှင့်ပုံနှိပ်ခ | ၁၂၈၈၆-၀၀ |
| သတင်းနှင့်စာနယ်ဇင်းစရိတ် | ၄၆၀-၀၀ |
| လျှပ်စစ်မီတာခ | ၇၆၃၈-၅၀ |
| ဆက်သွယ်ရေးစရိတ် | ၃၆၀၈၈၀-၄၂ |
| ဝန်ထမ်းကျွေးမွေးစရိတ် | ၂၃၀၀၀၀-၀၀ |
| ဧည့်ခံစရိတ် | ၂၀၀၅၆-၀၀ |
| ဂိုဒေါင်ငှားရမ်းခ | ၁၈၉၀၀၀-၀၀ |
| အလှူငွေ | ၉၄၃၄၃-၀၀ |
| မှတ်ပုံတင်စရိတ် | ၂၀၀၀-၀၀ |
| ခရီးစရိတ် | ၉၂၄၀၀-၀၀ |
| အထွေထွေစရိတ် | ၅၀၀၃-၂၀ |
| | ၁၃၆၅၄၆၇-၁၂ |

| **<u>ဘဏ္ဍာရေးစရိတ်</u>** | (ဇယား-၁၅) |
| --- | --- |
| ဘဏ်စရိတ် | ၁၀၃၂၈၁-၈၁ |
| တန်ဘိုးလျော့ | ၈၆၂၄၈၀-၆၇ |
| စာရင်းစစ်ခ | ၆၀၀၀၀-၀၀ |
| ရှေ့ဆိုင်းအသုံးစရိတ် | ၁၀၅၀၀၀၀-၀၀ |
| နိုင်ငံခြားငွေလဲလှယ်နှုံးခြားနားချက်ကြောင့်ဖြစ်ပေါ်လာသောစရိတ် | ၁၆၆၂၉၉၂-၄၇ |
| ကုန်သွယ်မှုစနစ်ညှိနှိုင်းချက်အရဖြစ်ပေါ်လာသောအရှုံး | ၇၁၅၂၂၀-၅၀ |
| | ၄၄၅၁၉၇၅-၅၃ |

| **<u>အမြတ်ဝေစုခွဲဝေပေးငွေ</u>** | (ဇယား-၁၆) |
| --- | --- |
| မြတ်မွန်ရတနာကုမ္ပဏီလီမိတက် | ၅၇၀၀၀၀၀-၀၀ |
| ကိုးကန်ထုတ်ကုန်သွင်းကုန်နှင့်ဆောက်လုပ်ရေးကုမ္ပဏီလီမိတက် | ၁၁၃၀၀၀၀၀-၀၀ |
| ပိုးဒင်းမောင်းတိန်းကုမ္ပဏီလီမိတက် | ၁၁၃၀၀၀၀၀-၀၀ |
| ဦးထွန်းမြင့်နိုင် | ၁၂၀၀၀၀၀-၀၀ |
| ဦးကျင်ထွန်း | ၁၂၀၀၀၀၀-၀၀ |
| ဒေါ်ခင်သန်းမြင့် | ၁၂၀၀၀၀၀-၀၀ |
| ဦးသန်းမြင့် | ၆၀၀၀၀၀-၀၀ |
| | ၃၂၅၀၀၀၀၀-၀၀ |

PROPOSAL FORM (1)RE-ITEM 8(a),(b)
LIST OF MATERIALS ETC **Exhibit No. II**
TO BE IMPORTED FROM ABROAD BY DEFERRED PAYMENT SYSTEM

| Sr No | PARTICULARS | QTY | UNIT PRICE IN US$ | VALUE IN US$ |
|---|---|---|---|---|
| 1 | Asphalt | 5000 MT | 200 | 1,000,000 |
| 2 | Cement | 5000 Tons | 80 | 400,000 |
| 3 | M.S Rod | 1500 Tons | 400 | 600,000 |
| | *TOTAL* | | | 2,000,000 |
| | EQUIVALENT IN KYAT | | | 12,000,000 |

Note: Exchange Rate 1 US$ = Kyat 6.00

PROPOSAL FORM (1)RE-ITEM 8(a),(b)

LIST OF MACHINERIES AND EQUIPMENT ETC **Exhibit No. III**

TO BE IMPORTED FROM ABROAD BY DEFERRED PAYMENT SYSTEM

| Sr No | PARTICULARS | QTY | UNIT PRICE IN US$ | VALUE IN US$ |
|---|---|---|---|---|
| 1 | Dozer | 6 Units | 57,000 | 342,000 |
| 2 | Motor Grader | 4 Units | 49,000 | 196,000 |
| 3 | Loader | 4 Units | 57,000 | 228,000 |
| 4 | Excavator | 1 Unit | 57,000 | 57,000 |
| 5 | Roller ( 10 Tons / 6 Tons ) | 20 Units | 28,500 | 570,000 |
| 6 | Bitumen Sprayer | 5 Units | 28,500 | 142,500 |
| 7 | Water Bowser | 4 Units | 24,500 | 98,000 |
| 8 | Tipper | 36 Units | 28,500 | 1,026,000 |
| 9 | Truck | 4 Units | 24,500 | 98,000 |
| 10 | Air Compressor - Rock Surface Cleaning | 4 Units | 1,600 | 6,400 |
| 11 | Air Compressor - Rock Drilling | 8 Units | 2,400 | 19,200 |
| 12 | Crusher 20TPH | 4 Units | 32,600 | 130,400 |
| 13 | Crusher 100TPD | 8 Units | 5,300 | 42,400 |
| 14 | Crusher 50TPD | 4 Units | 1,200 | 4,800 |
| 15 | Generator 7.5 KW | 4 Units | 825 | 3,300 |
| 16 | Asphalt Concrete Mixer | 1 Units | 1,018,000 | 1,018,000 |
| 17 | Asphalt Concrete Paver | 2 Units | 509,000 | 1,018,000 |
| | TOTAL | | | **5,000,000** |

## PROPOSAL FORM (1) RE-ITEM 8 A(1 )(2)(5)

( US$ AND KYAT IN THOUSAND )　　REPAYMENT OF LOAN　　Exhibit No. XII

| YEAR | LOCAL LOAN | FOREIGN LOAN | INTEREST RATE | | REPAYMENT OF LOAN | | INTEREST | | TOTAL PAYMENT | | BALANCE OF LOAN | |
|---|---|---|---|---|---|---|---|---|---|---|---|---|
| | IN KYAT | IN US$ | KYAT | US$ | KYAT | US$ | KYAT | US$ | KYAT | US$ | KYAT | US$ |
| | | | % | % | | | | | | | | |
| 1 | 570000 | 27000 | 17 | 7 | | | 96900 | 1890 | 96900 | 1890 | 570000 | 27000 |
| 2 | | | 17 | 7 | | | 96900 | 1890 | 96900 | 1890 | 570000 | 27000 |
| 3 | | | 17 | 7 | | 1500 | 96900 | 1890 | 96900 | 3390 | 570000 | 25500 |
| 4 | | | 17 | 7 | 47500 | 1500 | 96900 | 1785 | 144400 | 3285 | 522500 | 24000 |
| 5 | | | 17 | 7 | 47500 | 1500 | 88825 | 1680 | 136325 | 3180 | 475000 | 22500 |
| 6 | | | 17 | 7 | 47500 | 1500 | 80750 | 1575 | 128250 | 3075 | 427500 | 21000 |
| 7 | | | 17 | 7 | 47500 | 1500 | 72675 | 1470 | 120175 | 2970 | 380000 | 19500 |
| 8 | | | 17 | 7 | 47500 | 1500 | 64600 | 1365 | 112100 | 2865 | 332500 | 18000 |
| 9 | | | 17 | 7 | 47500 | 1500 | 56525 | 1260 | 104025 | 2760 | 285000 | 16500 |
| 10 | | | 17 | 7 | 47500 | 1500 | 48450 | 1155 | 95950 | 2655 | 237500 | 15000 |
| 11 | | | 17 | 7 | 47500 | 1500 | 40375 | 1050 | 87875 | 2550 | 190000 | 13500 |
| 12 | | | 17 | 7 | 47500 | 1500 | 32300 | 945 | 79800 | 2445 | 142500 | 12000 |
| 13 | | | 17 | 7 | 47500 | 1500 | 24225 | 840 | 71725 | 2340 | 95000 | 10500 |
| 14 | | | 17 | 7 | 47500 | 1500 | 16150 | 735 | 63650 | 2235 | 47500 | 9000 |
| 15 | | | 17 | 7 | 47500 | 1500 | 8075 | 630 | 55575 | 2130 | 0 | 7500 |
| 16 | | | | 7 | | 1500 | | 525 | 0 | 2025 | 0 | 6000 |
| 17 | | | | 7 | | 1500 | | 420 | 0 | 1920 | 0 | 4500 |
| 18 | | | | 7 | | 1500 | | 315 | 0 | 1815 | 0 | 3000 |
| 19 | | | | 7 | | 1500 | | 210 | 0 | 1710 | 0 | 1500 |
| 20 | | | | | | 1500 | | 105 | 0 | 1605 | 0 | 0 |
| TOTAL | 570000 | 27000 | | | 570000 | 27000 | 920550 | 21735 | 1490550 | 48735 | | |

Note: : Foreign Loan 27 million is Cash Loan US$ 20 million and Deferred Payment Purchased Value US$ 7 million.

တိကျမှန်မြန်

ပြည်ထောင်စုမြန်မာနိုင်ငံတော်
ရှေ့နေချုပ်ရုံး

စာအမှတ်၊ ၂(၄)၁/၁၂-၆၂(၂၄၆)
ရက်စွဲ၊ ၁၉၉၆ ခုနှစ်၊ မေလ (၂၄) ရက်

အကြောင်းအရာ။ **မန္တလေး-လားရှိုး၊ မူဆယ်ပြည်ထောင်စုလမ်းမကြီး နောင်ချို-လားရှိုးအပိုင်းနှင့်လားရှိုး- မူဆယ် အပိုင်းကိုပုဂ္ဂလိကလုပ်ငန်းရှင်များအား ဖေါက်လုပ် ဆောင်ရွက်ခွင့်ပြုရေး စာချုပ်ကိစ္စ**

ရည်ညွှန်းချက်။ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၏ ၂၁-၅-၉၆ ရက်စွဲပါစာအမှတ်၊ လစမ/စီတီ-၂/(လရ-မသ / နခ-လရ)/ လစမက/၀၀၆

၁။ ဆောက်လုပ်ရေးဝန်ကြီးဌာနမှ တာဝန်ယူရသည့်မန္တလေး-လားရှိုး မူဆယ်ပြည်ထောင်စုလမ်းမကြီးကို ဗီအိုတီစနစ်ဖြင့် (၃) နှစ်အတွင်း ဖေါက်လုပ် တိုးချဲ့ပြုပြင်ပြီး၎င်းလမ်းပေါ်တွင် (၃၀) နှစ်အထိ ယာဉ်ဖြတ်ကျော်ခ ကောက်ယူ ခွင့်ပြုမည့်လုပ်ငန်း ဆောင်ရွက်ရန် Diamond Palace Company Ltd. နှင့် Asia World Company Ltd. တို့နှင့်ချုပ်ဆိုမည့်စာချုပ်များကို စိစစ်ပေးပါ ရန်နှင့် ယင်းစာချုပ်များပါအပိုဒ် ၁၀ နှင့် ၂၀ တွင် ဖော်ပြထားသော Performance Bank Guarantee နှင့် Liquidated Damages များ ကင်းလွတ် ခွင့်ပြုရန် (သို့မဟုတ်) လျှော့ပေါ့စည်းကြပ်ရန်ကိစ္စရပ်များအပေါ် စိစစ်ပြန် ကြားပေးပါရန် ရည်ညွှန်းစာဖြင့် မေတ္တာရပ်ခံလာသော ကိစ္စရပ်ဖြစ်ပါ သည်။

၂။ ပူးတွဲပေးပို့သော Diamond Palace Company Ltd. နှင့်ချုပ်ဆို မည့်လုပ်ငန်းစာချုပ်(မူကြမ်း)အမှတ် PW/DP/96-97/MLM/TR-02 ကို လေ့လာ စိစစ်၍ အောက်ပါအတိုင်း အကြံပြုအပ်ပါသည် —

(က) စာချုပ်၏ ခေါင်းစဉ်ကိုမန္တလေး-လားရှိုး-မူဆယ်ပြည်ထောင်စု လမ်းမကြီး (နောင်ချို-လားရှိုးအပိုင်း) ပြုပြင်ဖေါက်လုပ်၊ လုပ်ငန်းလုပ်ကိုင်ရေး ပဋိညာဉ်စာချုပ်ဟု ရေးသားပေး လိုက်ပါသည်၊

(ခ) စာချုပ် (မူကြမ်း) တွင်ရည်ညွှန်းထားသော နောက်ဆက်တွဲများ ပူးတွဲမပါရှိပါသဖြင့် စိစစ်နိုင်ခြင်း မရှိပါ။ စာချုပ်၏ နောက်ဆက်တွဲများသည် စာချုပ်၏ တစ်စိတ်တစ်ဒေသဖြစ်သဖြင့် နောက်ဆက်တွဲများ တွင် ဖော်ပြချက်များသည် စာချုပ်ပါအချက်အလက်များ နှင့်ဆန့်ကျင်ကွဲလွဲမှုမရှိစေရန် သက်ဆိုင်ရာဌာနကတာဝန်ယူစိစစ်ရန်ဖြစ်ပါသည်။

(ဂ) လမ်း - တံတား အသုံးပြုသော ကောက်ခံရာဂိတ်များ နှင့် လမ်း + တံတား အသုံးပြုခနှုန်းများ ကိုစာချုပ်၏ နိဒါန်း ပိုင်းတွင်ထည့်သွင်း ရေးသားခြင်း မပြုဘဲ စာချုပ် ၏ စည်းကမ်း ချက်များ အဖြစ် ဖော်ပြသင့်ပါသည်။

(ဃ) အပိုဒ် ၈ (စ) နှင့်အပိုဒ် ၁၀ တို့တွင်ဖော်ပြထားသော "လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှုလက်မှတ်" ကိုမည်သည့်အချိန် တွင်မည်သည့်အနေအထားဖြင့်ထုတ်ပေးမည်ကိုစာချုပ် တွင် မပါရှိသဖြင့်လုပ်ငန်း လိုအပ်ချက်နှင့်အညီပြည့်စုံစွာ ဖော်ပြ ရေးသားရန်လိုအပ်ပါသည်။

(င) အပိုဒ် ၈ (တ) တွင်လုပ်ငန်း လည်ပတ်မည့်အနှစ် (၃၀) ကာလ အတွင်း လမ်းပြုပြင်ထိန်းသိမ်း ရေး လုပ်ငန်းများ ဆောင်ရွက်ရန်ဖြည့်စွက် ရေးသား ပေး လိုက်ပါသည်။

(စ) အပိုဒ် ၈ (ဒ) အရလုပ်ငန်း လုပ်ကိုင်ခွင့်ရသူကလုပ်ငန်းစတင် လည်ပတ်သည့်အချိန်မှ (၄) နှစ် ရောက်တွင်လမ်း ဖြတ်သန်းခ ငွေမှသတ်မှတ်ထား သော နှုန်းထား နှင့်အညီနိုင်ကြေးများ လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူကို ပေး သွင်း မည်ဖြစ်ရာ မည်သည့် အချိန်တွင် ပေး သွင်း မည်၊ မည်သို့ ပေး သွင်း မည်စသည်ဖြင့် ပြည့်စုံစွာ ရေး သား ရန်လိုအပ်ပါသည်။

(ဆ) အပိုဒ် ၁၄ စစ် ဆေးခြင်း အပိုင်းတွင်လမ်း ဖောက်လုပ် ပြီး ယာဉ်ဖြတ်ခများ ကောက်ခံသည့်အချိန်မှစ၍ စာရင်း အင်း များ ပြည့်စုံစွာထား ရှိရန်နှင့်အဆိုပါစာရင်း များ ကို လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူကစစ်ဆေး ခွင့်ရှိစေရန်ဖြည့်စွက် ရေးသား ပေး လိုက်ပါသည်။

(ဇ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသည့်ကာလအနှစ် (၃၀) ကုန်ဆုံးပါက အဆိုပါလမ်းနှင့်တံတားများ၊ ဂိတ်များ၊ အဆောက်အဦများကိုလုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံအဖိုးစားနားတစ်စုံတစ်ရာမပါရှိဘဲ လွှဲပြောင်းပေးရန်စာတစ်ပိုဒ်သီးခြား ရေးသားပေးလိုက်ပါသည်၊

(ဈ) အခြားလိုအပ်သောနေရာများတွင်မင်နီဖြင့်ပြင်ဆင်ရေး သားပေးလိုက်ပါသည်။

၃။ Asia World Company Ltd. နှင့်ချုပ်ဆိုမည့်စာချုပ် အမှတ် PW/AW/96-97/MLM/ TR -01 သည် Diamond Palace Company Ltd. နှင့်ချုပ်ဆိုမည့်စာချုပ်နှင့်လုပ်ငန်းဆောင်ရွက်မည့်နေရာမှာမှအပ အခြား အချက်အလက်များတွင်အလားတူရေးဆွဲထားကြောင်း တွေ့ရှိရသဖြင့် အဆိုပါ စာချုပ် (မူကြမ်း) နှင့်စပ်လျဉ်း၍ အထက်အပိုဒ် ၂ ပါအကြံပြုချက်များအတိုင်း သုံးသပ်အကြံပြုပါသည်။

၄။ ယခုကိစ္စနှင့်စပ်လျဉ်း၍တည်ဆဲလမ်းနှင့်တံတားအသုံးပြုခြင်းဆိုင်ရာ ဥပဒေပုဒ်မ ၃ အရသက်ဆိုင်ရာဝန်ကြီးဌာနသည်အသုံးပြုခကောက်ခံရမည့် လမ်းနှင့်တံတားကိုလည်းကောင်း၊ အသုံးပြုခကောက်ခံရန်နှုန်းထားကို လည်းကောင်း၊ အသုံးပြုခကောက်ခံရမည့်ယာဉ်အမျိုးအစားကိုလည်းကောင်း သတ်မှတ်နိုင်သည့်အပြင်အသုံးပြုခပေးဆောင်ခြင်းမှကင်းလွတ်ခွင့်လည်းပြုနိုင် ကြောင်းပြဋ္ဌာန်းထားခြင်းရှိပါ၍ယခုစာချုပ် (မူကြမ်း) များအရအသုံးပြု ခကောက်ခံမည့်လမ်းနှင့်တံတားများ၊ ကောက်ခံမည့်နှုန်းထားနှင့်ယာဉ် အမျိုးအစားများသည်သက်ဆိုင်ရာဝန်ကြီးဌာနကလမ်းနှင့်တံတားအသုံးပြု ခြင်းဆိုင်ရာဥပဒေပုဒ်မ ၃ အရထုတ်ပြန်မည့်အမိန့်ကြော်ငြာစာပါသတ်မှတ် ချက်များနှင့်ညီညွတ်ရန်လိုအပ်မည်ဖြစ်ပါသည်။ သို့တည်းမဟုတ်ပါက၎င်းစာချုပ်ပါ သတ်မှတ်ချက်များကိုနောင်အခါတွင်ပြင်ဆင်ရန်အကြောင်းပေါ်ပေါက်ဖွယ်ရာ ရှိမည်ဖြစ်ပါကြောင်းဖော်ပြအပ်ပါသည်။

၅။ စာချုပ် ( မူကြမ်း ) များ တွင်ပါရှိသော အပိုဒ် ၁၀ Performance Guarantee နှင့် အပိုဒ် ၂၀ Liquidated Damages များ မှ အစိုးရဌာန များ နှင့် နိုင်ငံခြားကုမ္ပဏီအဖွဲ့အစည်း တို့ချုပ်ဆိုမည့် ပူးတွဲ ဝယ်ယူရေး လုပ်ငန်း ဆောင်ရွက်ရေး ကိစ္စရပ်များ နှင့်သက်ဆိုင်ရာ အစိုးရ ဌာနအဖွဲ့အစည်း အကျိုး ထိခိုက်နစ်နာမှုမရှိစေရန်လည်း ကောင်း ၊ နိုင်ငံခြားကုမ္ပဏီအဖွဲ့အစည်းဖက် မှ စာချုပ်ပါတာဝန်ကိုတမင်း ဆောင်ရန်ပျက်ကွက်ပါကအထိုက်အလျောက်အား ဖြင့် ကာကွယ်မှု၊ သက်သာမှုရှိစေရန်လည်း ကောင်း ထည့်သွင်း ဖော်ပြရမည့် စာပိုဒ် များ ဖြစ်သဖြင့်ယခုလုပ်ငန်း စာချုပ် များ တွင်အဆိုပါအပိုဒ် များ မထည့်သွင်းဘဲ ကင်း လွတ်ခွင့်မပြုသင့်ဟုယူဆပါသည်။ ဘဏ်အာမခံထား ရမည့် ငွေပမာဏသတ်မှတ် ချက် Liquidated Damages သတ်မှတ်သည့်နှုန်း ထား များ နှင့်စပ်လျဉ်း၍မူ သက်ဆိုင်ရာဌာန၏ စီမံခန့်ခွဲရေး အရသင့်လျော်သလိုသတ်မှတ်သဘောတူနိုင်ပါသည်။

၆။ စာချုပ် ( မူကြမ်း ) များ တွင်ပါရှိသော စီမံရေးရာ၊ ဘဏ္ဍာရေး ရာ နှင့်ကျွမ်းကျင်မှုဆိုင်ရာကိစ္စရပ်များ ကိုသက်ဆိုင်ရာဌာနများ နှင့်ညှိနှိုင်း ဆောင်ရွက်ရန်အကြံပြုပါသည်။

၇။ Diamond Palace Company Ltd. နှင့် Asia World Company Ltd. ကုမ္ပဏီများ သည်မြန်မာနိုင်ငံကုမ္ပဏီအက်ဥပဒေများနှင့် အညီတရားဝင်ဖွဲ့စည်းထား သောကုမ္ပဏီဟုတ် မဟုတ်၊ ငွေကြေး ပြည့်စုံမှု ရှိ မရှိ၊ စာချုပ်ပါလုပ်ငန်း များ ကို ဆောင်ရွက်နိုင်စွမ်း ရှိ မရှိ စသောအချက် အလက်များ ကိုစာရွက်စာတမ်း များ တောင်း ယူစိစစ်သင့်ပါသည်။

၈။ စာချုပ် ( မူကြမ်း ) များ လက်မှတ် ရေး ထိုး ချုပ်ဆိုပြီး ပါက မှတ်တမ်း တင်ထား နိုင်ရန်မိတ္တူ ( ၃ ) စုံစီ ရုံး သို့ ပေး ပို့ပါရန် မေတ္တာရပ်ခံအပ်ပါသည်။

ညွှန်ကြားရေးမှူးချုပ် ( ကိုယ်စား )
( စန်းမောင်၊ ညွှန်ကြားရေးမှူး )

ဦးဆောင်ညွှန်ကြားရေးမှူး
ပြည်သူ့ဆောက်လုပ်ရေး လုပ်ငန်း

# ပြည်ထောင်စု မြန်မာနိုင်ငံတော်အစိုးရ
# ဆောက်လုပ်ရေး ဝန်ကြီးဌာန

## ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
## နှင့်
## အေးရှားဝေါ(လ်) ကုမ္ပဏီလီမိတက် တို့ ချုပ်ဆိုသည့်

မန္တလေး–လားရှိုး–မူဆယ် ပြည်ထောင်စုလမ်းမကြီး
(လားရှိုး–မူဆယ် အပိုင်း) ပြုပြင်ဖောက်လုပ်၊
လုပ်ငန်းလုပ်ကိုင်ရေး ပဋိညာဉ်စာချုပ်

ကန်ထရိုက်နံပါတ် – PW / AW / 96 - 97 / MLM / TR - 01

ဇူလိုင်လ၊ ၁၉၉၆ခုနှစ်

# မန္တလေး–လားရှိုး–မူဆယ် ပြည်ထောင်စုလမ်းမကြီး (လားရှိုး–မူဆယ် အပိုင်း) ပြုပြင်ဖောက်လုပ်၊ လုပ်ငန်းလုပ်ကိုင်ရေး ပဋိညာဉ်စာချုပ်

ဤစာချုပ်ကို ပြည်ထောင်စုမြန်မာနိုင်ငံ၊ ရန်ကုန်မြို့တွင် ၁၉၉၆ခုနှစ်၊ လ၊ ရက်နေ့၌ ဆောက်လုပ်ရေးဝန်ကြီးဌာန ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း၊ အမှတ်(၆၀)၊ ရွှေတိဂုံဘုရားလမ်း၊ဒဂုံမြို့နယ်၊ ရန်ကုန်မြို့ ( ဤမှနောက်တွင် **လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ** ဟု ရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ယင်း၏ တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟုမှတ်ယူရမည် )က ဤပဋိညာဉ်စာချုပ်ချုပ်ဆိုရန် ကိုယ်စားပြု တာဝန်ပေးအပ်ခြင်းခံရသော ဦးဆောင်ညွှန်ကြားရေးမှူးက တဖက်

နှင့်

အေးရှားဝေါ(လ်) ကုမ္ပဏီလီမိတက်၊ အမှတ်(၆၁–၆၂)၊ ဗဟိုစည်အိမ်ယာစီမံကိန်း၊ ဝါးတန်းလမ်း၊ လမ်းမတော်မြို့နယ်၊ရန်ကုန်မြို့ ( ဤမှနောက်တွင် **လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ** ဟုရည်ညွှန်းခေါ်ဆိုမည်ဖြစ်ရာ၊ ယင်းစကားရပ်တွင် စာသားအရသော်လည်းကောင်း၊ အဓိပ္ပါယ်အရသော်လည်းကောင်း၊ ရှေ့နောက်ဆန့်ကျင်ကွဲလွဲခြင်းမရှိပါက၊ ယင်း၏ တရားဝင်ကိုယ်စားလှယ်များ၊ ဆက်ခံသူများနှင့် ခွင့်ပြုလွှဲအပ်သူများ ပါဝင်သည်ဟု မှတ်ယူရမည် )က ဤပဋိညာဉ် စာချုပ်ချုပ်ဆိုရန် ကိုယ်စားပြု တာဝန်ပေးအပ်ခြင်းခံရသော အုပ်ချုပ်မှုဒါရိုက်တာကအခြားတဖက် တို့ချုပ်ဆိုကြပါသည်။

## နိဒါန်း

လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လမ်းနှင့်တံတားအသုံးပြုခနှင့် အခြားအကျိုးခံစားခွင့်များကို ထည့်သွင်းထား၍လည်းကောင်း၊ တင်ဒါပါစည်းကမ်းချက်များကို ဆန်းစစ်၍လည်းကောင်း၊ စာချုပ်ပါလုပ်ငန်းများဆောင်ရွက်ရန်အလို့ငှာ ဤပဋိညာဉ်စာချုပ်ကို နှစ်ဦးနှစ်ဘက် အကြေအလည်ညှိနှိုင်းပြီးနောက် အောက်ပါအတိုင်း သဘောတူကြပါသည်။

### ၁။ ဆောင်ရွက်ရမည့် လုပ်ငန်းများ

(က) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် အရှည်(၁၀၂)မိုင်၊(၃)ဖာလုံရှိသော မန္တလေး–လားရှိုး–မူဆယ် ပြည်ထောင်စုလမ်းမကြီး ( လားရှိုး–မူဆယ် လမ်းအပိုင်း မိုင်တိုင် ၁၇၂/၀ မှ ၂၇၄/၃ ) ကို ပုံစံပြုရန်၊ ဖောက်လုပ်တည်ဆောက်ရန်၊

(ခ) လမ်းတံတားအသုံးပြုခ ကောက်ခံရန်ဂိတ်များ၊ ကောက်ခံသည့်ရုံးများ၊ ထိန်းချုပ်ရေးနှင့် ဆက်သွယ်ရေးစနစ်များ၊ ယာဉ်ရပ်နားစခန်းများ၊ လမ်းကူးလမ်းစပ်များ၊ နားခိုရာနေရာများ နှင့် အပန်းဖြေစခန်းများအတွက် ပုံစံပြုရန်နှင့် တည်ဆောက်လုပ်ရန်၊

(ဂ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ဤစာချုပ်ပါ လမ်းပိုင်းအတွက် လမ်း၊ တံတား အသုံးပြုခ ကောက်ခံရန် တစ်ဦးတည်းကိုယ်စားလှယ် အဖြစ်ဆောင်ရွက်ရန်၊

(ဃ) အဆိုပါ လမ်းပိုင်းအတွက် လမ်း၊ တံတားအသုံးပြုခနှင့် အခြားအကျိုးခံစားခွင့်များကို နှစ်ပေါင်း(၃၀)အထိ ကောက်ခံရရှိစေရန်၊

၂။ <u>လမ်းတံတား အသုံးပြုခကောက်ခံရာဂိတ်များ</u>

ကောက်ခံရာဂိတ်များနှင့် နှုန်းထားများမှာ အောက်ပါအတိုင်း ဖြစ်ပါသည် -

**အသွားခရီးအတွက် ( လားရှိုး မှ မူဆယ် )**

ဂိတ်အမှတ် ၁ - လားရှိုး
ဂိတ်အမှတ် ၂ - သိန္နီ
ဂိတ်အမှတ် ၃ - ကွတ်ခိုင်
ဂိတ်အမှတ် ၄ - နမ့်ဖက်ကာ

**အပြန်ခရီးအတွက် ( မူဆယ် မှ လားရှိုး )**

ဂိတ်အမှတ် ၁ - မူဆယ်
ဂိတ်အမှတ် ၂ - နမ့်ဖက်ကာ
ဂိတ်အမှတ် ၃ - ကွတ်ခိုင်
ဂိတ်အမှတ် ၄ - သိန္နီ

<u>လမ်းတံတား အသုံးပြုခနှုန်းများ</u>

| | |
|---|---|
| ၁။ ယာဉ်ငယ် (၁တန်အောက်) | - တစ်စီးလျှင် ကျပ်( ၁၀၀) |
| ၂။ ယာဉ်လတ် (၁တန်နှင့် ၂½ တန်) | - တစ်စီးလျှင် ကျပ်( ၃၀၀) |
| ၃။ ခရီးသည်တင်ကား (အကြီး) | - တစ်စီးလျှင် ကျပ်( ၅၀၀) |
| ၄။ ထရပ်ကားများ (အလတ်)(၁၀တန်အထိ) | - တစ်စီးလျှင် ကျပ်(၁၀၀၀) |
| ၅။ ထရပ်ကားများ (၂၀တန်အထိ) | - တစ်စီးလျှင် ကျပ်(၂၀၀၀) |

တန်(၂၀)နှင့်အထက်ယာဉ်များသည် နောက်ထပ်ပိုသော (၁)တန်တိုင်းအတွက် ကျပ်(၂၀၀)စီ ထပ်မံပေးဆောင်ရမည်။ နှုန်းထားများကို မည်သို့ပင်သတ်မှတ်ထားစေကာမူ၊ နိုင်ငံတော်မှ အခါအားလျော်စွာ သတ်မှတ်ပေးသည့် နှုန်းထားအတိုင်း ကောက်ခံသွားရန် ဖြစ်ပါသည်။

## ၃။ အာမခံခြင်းနှင့်ကိုယ်စားပြုခြင်း

ပဋိညာဉ်စာချုပ်ဝင်များသည် မြန်မာနိုင်ငံ၏ တည်ဆဲဥပဒေများအရ ဖွဲ့စည်းထား၍ အခွင့်အာဏာ အပ်နှင်းခြင်းခံရသော တရားဝင်ရပ်တည်ခွင့်ရှိသူဖြစ်ပြီး၊ ၎င်းတို့တွင် ပဋိညာဉ်စာချုပ်ကို ချုပ်ဆိုရန်အလို့ငှာ ငွေကြေးအင်အားပြည့်စုံပြီး လုပ်ပိုင်ခွင့်အာဏာများရှိသူဖြစ်ကြောင်း အသီးသီးကိုယ်စားပြု အာမခံချက် ပေးပါသည်။

## ၄။ အဓိပ္ပါယ်ဖွင့်ဆိုချက်များ

(က) "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူပိုင် စက်ယန္တယားများ" ဆိုသည်မှာ ဤစီမံကိန်းလုပ်ငန်း ကိုပြီးစီးအောင် ဆောင်ရွက်ရာတွင်လည်းကောင်း၊ လုပ်ငန်းပျက်စီးသည့် အစိတ်အပိုင်းများ ပြုပြင်ဆောင်ရွက်ရာတွင်လည်းကောင်း၊ အသုံးပြုမည့် စက်၊ ယာဉ်၊ ယန္တယားများ၊ စက်သုံးကရိယာ၊ တန်ဆာပစ္စည်းများကို ခေါ်ဆိုသည်။ အမြဲတမ်း လုပ်ငန်းများအတွက်ရည်ရွယ်၍ တည်ဆောက်ထားသော အဆောက်အဦး၊ စက်ရုံ၊ အလုပ်ရုံ၊ လုပ်ငန်းသုံးပစ္စည်းများ ပါဝင်ခြင်း မရှိစေရပါ။

(ခ) "ပစ္စည်း" ဆိုသည်မှာ ( စက်ရုံ၊ အလုပ်ရုံများမှအပ ) ဤပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များအရ စီမံကိန်းလုပ်ငန်းအတွက် လိုအပ်သော "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ ပေးသွင်းသည့် လိုအပ်ပါက နိုင်ငံခြားမှ မှာယူတင်သွင်းသော ပစ္စည်းများအပါအဝင် လုပ်ငန်းသုံးပစ္စည်းအားလုံးကို ခေါ်ဆိုသည်။

(ဂ) "အမြဲတမ်းလုပ်ငန်းများ" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ပါ စီမံကိန်းလုပ်ငန်းတွင် အကျုံးဝင်သော ပုံစံပြု ဆောင်ရွက်ရမည့် အမြဲတမ်းလုပ်ငန်းများကို ခေါ်ဆိုပါသည်။

(ဃ) "စက်ရုံ၊ အလုပ်ရုံ" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များအရ၊ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ ဤစီမံကိန်းလုပ်ငန်းတွင် အကျုံးဝင်သော အမြဲတမ်း လုပ်ငန်းများဆောင်ရွက်ရာတွင် အထောက်အကူဖြစ်စေရန်ရည်ရွယ်၍ စက်ပစ္စည်း၊ ကရိယာ (လိုအပ်က နိုင်ငံခြားမှ မှာယူတင်သွင်းသည့် စက်ပစ္စည်း၊ ကရိယာ) များ တပ်ဆင်ထားသည့် စက်ရုံ၊ အလုပ်ရုံကို ခေါ်ဆိုသည်။

(င) "အပိုင်း" ဆိုသည်မှာ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" မှ တာဝန်ယူ ပုံစံပြုဆောက်လုပ်ရမည့် လုပ်ငန်းတစ်စိတ်တစ်ပိုင်းအား ဆိုလိုသည်။

(စ) "လုပ်ခွင်နေရာ" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်တွင် ရည်ညွှန်းဖော်ပြထားသည့် လုပ်ငန်းတစ်စိတ်တစ်ပိုင်း၏နေရာများ၊ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" မှ လုပ်ငန်းဆောင်ရွက်ရန် သတ်မှတ်ပေးထားသည့်နေရာများ၊ ရုံးအဆောက်အဦး၊ စက်ရုံ၊ အလုပ်ရုံ တည်ဆောက်ထားသည့်နေရာများ၊ ပစ္စည်းများစုပုံထားသည့် နေရာများကို ခေါ်ဆိုသည်။

(ဆ) "ယာယီလုပ်ငန်းများ" ဆိုသည်မှာ ဤစီမံကိန်း "လုပ်ငန်း" ကို ပြီးစီးအောင် အကောင်အထည်ဖော် ဆောင်ရွက်ရာတွင်လည်းကောင်း၊ လုပ်ငန်း၏ပျက်စီးယိုယွင်းနေသည့်အစိတ်အပိုင်းများ ပြုပြင်ဆောင်ရွက်ရာတွင်လည်းကောင်း၊ အထောက်အကူပြုသည့် လုပ်ငန်းများကို ခေါ်ဆိုသည်။

(ဇ) "ပြောင်းလဲခြင်း" ဆိုသည်မှာ ဤပဋိညာဉ်အပိုဒ်(၂၀)အရ "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ တရားဝင်ကိုယ်စားလှယ်မှ အတည်ပြုပြီးသော လုပ်ငန်းပြောင်းလဲခြင်း၊ သို့မဟုတ် "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ တရားဝင်ကိုယ်စားလှယ် မှ လုပ်ငန်းသဘာဝအရ လုပ်ငန်းပိုမိုကောင်းမွန်စေရန် လုပ်ငန်းပြောင်းလဲလုပ်ကိုင်ရန် တရားဝင်ညွှန်ကြားသည့် လုပ်ငန်းများကို ဆိုလိုပါသည်။

(ဈ) "တဆင့်ခံလုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ် အပိုဒ်(ဂ)၊ အပိုဒ်(ဓ)အရ "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" ထံမှ လုပ်ငန်းတစ်စိတ်တစ်ပိုင်းအား တရားဝင်ခွဲဝေလုပ်ကိုင်ခွင့်ရသူ၊ (သို့မဟုတ်) လုပ်ငန်းနှင့်သက်ဆိုင်သည့်ပစ္စည်းများ၊ စက်ယန္တရားများ ပေးသွင်းခွင့်ရသူများကို ဆိုလိုသည်။

(ည) "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်" ဆိုသည်မှာ ဤပဋိညာဉ်စာချုပ်အရ ဤစီမံကိန်းလုပ်ငန်းနှင့်ပတ်သက်၍ "လုပ်ငန်းလုပ်ပိုင်ခွင့်ပြုသူ" ၏ တာဝန်များကိုဆောင်ရွက်ရန် "လုပ်ငန်းလုပ်ပိုင်ခွင့်ပြုသူ" မှ တရားဝင်သတ်မှတ်ပေးထားသည့် ကိုယ်စားလှယ်ကို ဆိုလိုသည်။

၅။ <u>လုပ်ငန်းအမျိုးအစားဖော်ပြချက်</u>

(က) ဤစီမံကိန်းလုပ်ငန်း၏ လမ်းနယ်နိမိတ်အား ကျေးရွာများအတွင်း ဖြတ်သန်းသည့်နေရာများမှအပ ပေ(၂၀၀)အကျယ် သတ်မှတ်သည်။ မြို့များအတွင်းတွင် သက်ဆိုင်ရာမြို့နယ်စည်ပင်သာယာရေးအဖွဲ့မှ သတ်မှတ်ထားသည့် လမ်းနယ်နိမိတ်သာ ဖြစ်စေရမည်။

(ခ) "လမ်းသားအကျယ်" မှာ (၂)လမ်းသွားအတွက် (၃၈)ပေအကျယ် ရှိစေရမည်။ တောင်ပေါ်ဒေသများတွင် လမ်းသားအကျယ်အား အနဲဆုံး (၂၈)ပေ အကျယ်ရှိစေရမည်။

(ဂ) ယာဉ်သွားလမ်းအကျယ်အား ပထမအဆင့်အနေဖြင့် (၁၈)ပေအကျယ်ကို (၃)နှစ်အတွင်း အပြီးတည်ဆောက်ပေးရမည်။ ပထမအဆင့်ပြီးမှသာ ယာဉ်သွားလမ်းအား (၂၂)ပေအကျယ်သို့ တိုးချဲ့တည်ဆောက်ပေးရမည်။

(ဃ) လမ်းသားတည်ဆောက်ရာတွင် ယာဉ်နှင့်ကုန်အလေးချိန် စုစုပေါင်း(၄၀)တန် ခံနိုင်ရန် တည်ဆောက်ပေးရမည်။

(င) တံတားများတည်ဆောက်ရာတွင် ( **AASHTO HS 20-44** လမ်းမကြီးများ သတ်မှတ်စံနှုန်းအရ ) ယာဉ်နှင့်ကုန် စုစုပေါင်းအလေးချိန် (၆၀)တန်ခံနိုင်ရန် တည်ဆောက်ပေးရမည်။ တံတားအပေါ်ပိုင်းကိုယ်ထည်မှာ သံမဏိသံဘောင်တံတား၊ (သို့မဟုတ်) သံအားဖြည့်ဘိလပ်မြေ ကွန်ကရီတံတားကိုယ်ထည်များ ဖြစ်စေရမည်။

(စ) ပေ(၁၀၀)နှင့်အထက် အရှည်ရှိတံတားများအား အဓိကတံတားကြီးများအဖြစ် သတ်မှတ်သည်။ ယင်းတံတားကြီးများတည်ဆောက်ရာတွင် အပိုဒ်(၂)၊ အပိုဒ်ခွဲ(င)ပါ သတ်မှတ်ချက်အတိုင်း တည်ဆောက်ပေးရမည်။ တံတားကြီးများ၏ တည်ဆောက်ပြီးစီးမည့်အချိန်အား နောက်ထပ်(၂)နှစ် ထပ်မံတိုးမြှင့် သတ်မှတ်ပေးသည်။

(ဆ) ဤပဋိညာဉ်စာချုပ်ပါ စီမံကိန်းလုပ်ငန်းလမ်းမကြီးအား ပြန်လည်တည်ဆောက်ခြင်းလုပ်ငန်းများဆောင်ရွက်နေစဉ်လည်းကောင်း၊ ပြင်ဆင်ထိန်းသိမ်းခြင်းလုပ်ငန်းများ ဆောင်ရွက်နေစဉ်လည်းကောင်း၊ လမ်းခရီးဆက်သွယ်မှု မပြတ်တောက်စေရန် " လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ " မှ တာဝန်ယူစေရမည်။

## ၆။ ဆောင်ရွက်ရမည့် လုပ်ငန်းအဆင့်ဆင့်

ဤစီမံကိန်းလုပ်ငန်း လမ်းမကြီးဖောက်လုပ်တည်ဆောက်ရာတွင် ဆောင်ရွက်ရမည့် လုပ်ငန်းအဆင့်ဆင့်မှာ အောက်ဖော်ပြပါအတိုင်း ဖြစ်ပါသည်။

- လမ်းနယ်နိမိတ်အတွင်း သစ်ပင်များခုတ်လှဲခြင်း၊ သစ်ငုတ်များဖယ်ရှားခြင်း၊ ရှင်းလင်းခြင်း လုပ်ငန်း၊
- လမ်းကြောင်းမြေတူးဖော်ခြင်းလုပ်ငန်း၊
- လမ်းကြောင်းမြေဖို့ရန် အခြားနေရာများမှ မြေတူးခြင်းလုပ်ငန်း၊
- လမ်းမြေသားတာဘောင်ဖို့ခြင်းလုပ်ငန်း၊
- ဒုအခြေခံလွှာ တည်ဆောက်ခြင်းလုပ်ငန်း၊
- အခြေခံလွှာ တည်ဆောက်ခြင်းလုပ်ငန်း၊
- ကနဦးလွှာ ကတ္တရာလောင်းခြင်းလုပ်ငန်း၊
- နိုင်လွှန်ကတ္တရာအလွှာခင်းခြင်းလုပ်ငန်း၊
- လက်ရှိလမ်းသားမျက်နှာပြင်၊ လမ်းပုံသဏ္ဍာန်အမှန်ရရှိအောင် ပြင်ညှိအလွှာမျက်နှာပြင်တို့နှင့် နိုင်လွှန်ကတ္တရာအလွှာအကြား ကတ္တရာလောင်းခြင်းလုပ်ငန်း၊
- လမ်းပုံသဏ္ဍာန်မှန်ရရှိရန် ပြင်ညှိအလွှာတည်ဆောက်ခြင်းလုပ်ငန်း၊
- လမ်းပခုံးများတည်ဆောက်ခြင်း၊ လမ်းဘေး ဝဲယာ ရေနုတ်မြောင်း တူးဖော်ခြင်းလုပ်ငန်း၊ နိမ့်လျှောမြေသားမျက်နှာပြင်များ ပြုပြင်ခြင်းလုပ်ငန်းများ၊
- လမ်းသားနှင့် ဝဲယာရေနုတ်မြောင်း၊ ကြားဖြတ်ရေနုတ်မြောင်းများ တည်ဆောက်ခြင်း၊
- လမ်းအကွာအဝေးပြမိုင်တိုင်များ စိုက်ထူခြင်းလုပ်ငန်း၊ လမ်းအမှတ်အသားပြတိုင်များ စိုက်ထူခြင်းလုပ်ငန်း၊
- စီမံကိန်းလုပ်ငန်းလမ်းမကြီးနှင့် ဆက်သွယ်လမ်းများဖောက်လုပ်ခြင်း၊
- လမ်းအခွန်ကောက်ဂိတ်များနှင့် အခြားအထောက်အကူပြုအဆောက်အဦးများတည်ဆောက်ခြင်းလုပ်ငန်း၊

## ၇။ စံချိန်စံညွှန်းများ

"လုပ်ငန်းလုပ်ပိုင်ခွင့်ရသူ" သည် "လုပ်ငန်းလုပ်ပိုင်ခွင့်ပြုသူ" မှ သတ်မှတ်ထားသည့်လုပ်ငန်း စံချိန်စံညွှန်းများနှင့် ကိုက်ညီအောင် လုပ်ငန်းများကို အကောင်အထည်ဖော် ဆောင်ရွက်ပေးရမည်။ တင်ဒါ စည်းကမ်းချက်စာချုပ်ပါ နောက်ဆက်တွဲ(က)တွင် ဖော်ပြထားသည့်ပစ္စည်းနှင့် လမ်းတည်ဆောက်ရေးဆိုင် ရာ စည်းကမ်းချက်များကို တိကျစွာ လိုက်နာဆောင်ရွက်ရမည်။ အချို့လုပ်ငန်းများ ဆောင်ရွက်ရာတွင် သတ်မှတ်ချက်များအတိုင်း ဆောင်ရွက်ရန် မဖြစ်နိုင်ပါက လိုအပ်သလို ညှိနှိုင်းဆောင်ရွက်ခွင့်ရှိသည်။

### ၇-၁။ လမ်းမြေသား တာဘောင်ဖို့ခြင်း

လမ်းမြေသားတာဘောင်ဖို့ခြင်း ဆောင်ရွက်ရာတွင် မြေသားအတွင်း သစ်ပင်သစ်ဆွေးများ ကျန်းမာရေးထိခိုက်စေနိုင်သည့် ပစ္စည်းများမပါဝင်စေရန် သတိပြုဆောင်ရွက်ရမည်။ သတ်မှတ်ထား သည့် အမြင့်နှင့်လမ်းသားပုံရရှိစေရန် ဆောင်ရွက်ပေးရမည်။ မြေသားသိပ်သည်းမှုသည် သတ် မှတ်ချက်၏ (၉၀)ရာခိုင်နှုန်းထက် မနဲစေရ၊

### ၇-၂။ အောက်ခံမြေ

အောက်ခံမြေသားမှာ လမ်းသားအလွှာအောက်ရှိ တူးထုတ်ထားသော (သို့မဟုတ်) ဖို့ထား သော မြေသားအလွှာဖြစ်ပါသည်။ အောက်ခံမြေသားကို သတ်မှတ်ရွေးချယ်ထားသော မြေသား ဖြင့် သတ်မှတ်သိပ်သည်းမှုရရှိအောင် ကြိတ်ထားသည့် အနဲဆုံး(၁၂)လက်မအထူရှိသည့် မြေသား အလွှာ ဖြစ်ပါသည်။ သိပ်သည်းမှုမှာ သတ်မှတ်သိပ်သည်းမှု၏ (၉၅)ရာခိုင်နှုန်း (သို့မဟုတ်) ၄င်း အထက်ရှိရမည်။ စီ-ဘီ-အာ (ရေစိမ်) တန်ဘိုးသည် (၅)ရာခိုင်နှုန်း ထက်မနဲ ရှိစေရမည်။

### ၇-၃။ ဒု-အခြေခံလွှာ

ဒု-အခြေခံလွှာမှာ ဂဝံကျောက် (သို့မဟုတ်) ကျောက်ရောမြေအား (၁၄)လက်မထု သိပ် သည်းအောင် ကြိတ်ထားသော အလွှာကိုခေါ်ဆိုပါသည်။ သတ်မှတ်သိပ်သည်းမှုမှာ (၉၅) ရာခိုင်နှုန်း ရှိရမည်ဖြစ်ပြီး စီ-ဘီ-အာ(ရေစိမ်) တန်ဘိုးသည် (၃၀)ရာခိုင်နှုန်း (သို့မဟုတ်) ၄င်း အထက်ရှိရမည်။

### ၇-၄။ အခြေခံလွှာ

ဒု-အခြေခံလွှာနှင့် အပေါ်မျက်နှာပြင်အကြားရှိ ကျောက်ရောမြေသား (သို့မဟုတ်) ခွဲကျောက်တို့ကို (၉)လက်မထု သိပ်သည်းလွှာရရှိအောင် ဆောင်ရွက်ရမည့်အလွှာ ဖြစ်ပါသည်။ စီ-ဘီ-အာ(ရေစိမ်) တန်ဘိုးသည် (၈၀)ရာခိုင်နှုန်း အထက်ရှိစေရမည်။

## ၇-၅။ ကနဦးလွှာ ကတ္တရာလောင်းခြင်း

ရေပိတ်လွှာကတ္တရာမလောင်းမီ လမ်းသားမျက်နှာပြင်အား ဖုန်များ၊ ရွှံ့များ၊ အမှိုက်သရိုက်များ သန့်ရှင်းအောင်ဆောင်ရွက်ရမည်။ ရေပိတ်လွှာကတ္တရာအား တင်ဒါစည်းကမ်းစာချုပ်၏ နောက်ဆက်တွဲ(က)ပါ သတ်မှတ်ချက်များအတိုင်း ဆောင်ရွက်ရမည်။

## ၇-၆။ နိုင်လွန်ကတ္တရာမျက်နှာပြင်လွှာခင်းခြင်း

နိုင်လွန်ကတ္တရာလွှာအား ရေပိတ်လွှာကတ္တရာခင်းပြီးမှ ဆောင်ရွက်ရမည်။ လိုအပ်သည့် အရည်အသွေးများရရှိရန် နိုင်လွန်ကတ္တရာအား မာရယ်နည်းကို အသုံးပြု၍ ပုံစံပြု ဆောင်ရွက်ရမည်။ တင်ဒါစည်းကမ်းစာချုပ် နောက်ဆက်တွဲ(က)ပါ စည်းကမ်းချက်များအတိုင်း စက်ဖြင့်ရောစပ်ခြင်း၊ စက်ဖြင့်ခင်းခြင်းများ ဆောင်ရွက်ရမည်။

## ၈။ လုပ်ငန်းတန်ဘိုး

မန္တလေး-လားရှိုး-မူဆယ် ပြည်ထောင်စုလမ်းမကြီး စီမံကိန်း (လားရှိုး-မူဆယ်အပိုင်း မိုင်တိုင် ၁၅၂/၀ - ၂၇၄/၃) ဖွံ့ဖြိုးတိုးတက်အောင်ဆောင်ရွက်ရာ ဤရင်းနှီးမြှုပ်နှံမှုတန်ဖိုးစုစုပေါင်းမှာ မြန်မာ ကျပ်ငွေ ၈၂၀၀၀၀၀၀၀ (ကျပ်သန်းပေါင်း ရှစ်ရာနှစ်ဆယ်တိတိ)နှင့် နိုင်ငံခြားသုံးငွေ အမေရိကန်ဒေါ်လာ ၂၇၀၀၀၀၀၀ (အမေရိကန်ဒေါ်လာ နှစ်ဆယ့်ခုနစ်သန်းတိတိ) ဖြစ်ပါသည်။

## ၉။ နေ့ရက်၊ အချိန်နှင့်ကာလ

(က) "စတင်ဆောင်ရွက်မည့်နေ့" မှာ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်မှ ထုတ်ပေးသည့် လုပ်ငန်းစတင်ရန်အကြောင်းကြားစာကို လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှ လက်ခံရရှိသည့်နေ့ ဖြစ်သည်။

(ခ) "လုပ်ငန်းကာလ" ဆိုသည်မှာ လုပ်ငန်းစတင်သည့်နေ့မှ (၃)နှစ်အထိ ဖြစ်သည်။

(ဂ) "နေ့ရက်" ဆိုသည်မှာ ပြက္ခဒိန်နေ့ရက် ဖြစ်ပြီး၊ "နှစ်" ဆိုသည်မှာ (၃၆၅)ရက် ဖြစ်သည်။

(ဃ) "အကျိုးသက်ရောက်သည့်နေ့" မှာ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်မှ အကြောင်းကြားချက်အရ ဤပဋိညာဉ်စာချုပ် ဥပဒေအရ အကျိုးသက်ရောက်သည့်နေ့ ဖြစ်သည်။

၁၀။ **လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်**

(က) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်သည် ဤပဋိညာဉ်စာချုပ်တွင် အသေးစိပ်ဖော်ပြထားသော ယင်း၏တာဝန်များကို ဆောင်ရွက်ရမည်။

(ခ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်သည် ဤပဋိညာဉ်စာချုပ်အရ တိုက်ရိုက်ဖြစ်စေ၊ သွယ်ဝိုက်၍ဖြစ်စေ သတ်မှတ်ထားသော အခွင့်အာဏာများကို ကျင့်သုံးဆောင်ရွက်နိုင်သည်။

(ဂ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်သည် ဥပဒေအရဖြစ်စေ၊ ရုပ်ဝတ္ထုအရဖြစ်စေ၊ ဆောင်ရွက်ရန်မဖြစ်နိုင်သည့် ကိစ္စရပ်များမှလွဲ၍ ဤပဋိညာဉ်စာချုပ်နှင့်အညီ လိုအပ်သော ညွှန်ကြားချက်များ ပေးရမည်။

၁၁။ **လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏ တာဝန်များ**

(က) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ပဋိညာဉ်စာချုပ်ပါ အချက်များနှင့်အညီ လုပ်ငန်းအတိုင်းအတာပမာဏကိုဆောင်ရွက်ရန်နှင့် ပုံစံပြုခြင်း၊ လုပ်ငန်းအကောင်အထည်ဖော်ခြင်း၊လုပ်ငန်းပြီးစီးအောင်ဆောင်ရွက်ခြင်းနှင့် ပဋိညာဉ်စာချုပ်ပါ အချက်များနှင့်အညီ ပျက်ကွက်မှုတစ်စုံတစ်ရာအတွက် ပြင်ဆင်မှုပြုခြင်းတို့ကို သဘောတူညီပြီးဖြစ်သည့်အတိုင်း ဆောင်ရွက်ရမည်။

(ခ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ကြီးကြပ်သူအလုပ်သမား၊ စက်ရုံ၊ အလုပ်ရုံပစ္စည်းများ၊ ကိရိယာတန်ဆာပလာ၊ ယာယီလုပ်ငန်းများနှင့် အခြားလိုအပ်သောအရာဝတ္ထုများကို ဖြည့်ဆည်းထောက်ပံ့ရမည့်အပြင် ပုံစံပြုပြင်ခြင်းလုပ်ငန်း အကောင်အထည်ဖော်ခြင်း ပြီးဆုံးအောင် ဆောင်ရွက်ခြင်းနှင့် ပျက်ကွက်မှုအတွက် ပြင်ဆင်မှုပြုပေးခြင်း စသည်တို့ကို ဆောင်ရွက်ရမည်။

(ဂ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ယင်း၏ထိန်းချုပ်မှုအောက်ရှိ ဆောက်လုပ်ရေးစခန်း အားလုံးနှင့် လုပ်ငန်းများအားလုံးရှိ လုပ်ငန်းခွင်နေရာများအား လုံလောက်မှု၊ တည်ငြိမ်မှုနှင့် ဘေးအန္တရာယ် ကင်းရှင်းစေမှုတို့အတွက် အပြည့်အဝ တာဝန်ယူရမည်။

(ဃ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ပြည်တွင်းမှ ဝန်ထမ်းများ အလုပ်သမားများ၊ ယင်းတို့၏ လုပ်ခ၊ နေအိမ်၊ အစားအသောက်နှင့် သယ်ယူပို့ဆောင်ရေးတို့ကို ယင်း၏ကိုယ်ပိုင်အစီအစဉ်ဖြင့် ဆောင်ရွက်ပေးရမည်။ ထို့ပြင် လုပ်ငန်းဆောင်ရွက်ရန်အတွက် လိုအပ်ပါက ဝန်ထမ်း၊ လက်မှုပညာသည်နှင့် အလုပ်သမားများကို ပြည်ပမှခေါ်ယူ ခန့်ထားနိုင်သည်။

(င) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ဝန်ထမ်းနှင့် အလုပ်သမားများ၏ ကျန်းမာရေးနှင့် ဘေး အန္တရာယ်ကင်းရှင်းရေးတို့အတွက် ကာကွယ်မှုအစီအစဉ်များ ပြုလုပ်ပေးရမည်။

(စ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ပုံစံပြုဆောင်ရွက်စဉ်နှင့် လုပ်ငန်းအကောင်ထည်ဖော်စဉ် အတွင်း လိုအပ်သော ကြီးကြပ်ကွပ်ကဲမှုများကို လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ် ( **Final Completion Certificate** ) ရရှိသည်အထိ ပြုလုပ်ပေးရမည်။

(ဆ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ပြည်ပမှအလုပ်သမားများ မြန်မာနိုင်ငံတွင်ရှိနေစဉ်အတွင်း မြန်မာနိုင်ငံ၏ဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းများကို လေးစားလိုက်နာရန်နှင့် မြန်မာ နိုင်ငံ၏ ပြည်တွင်းရေးတွင် ဝင်ရောက်စွက်ဖက်ခြင်းမပြုရန် တာဝန်ယူရမည်။

(ဇ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ပစ္စည်း၊ ထုတ်ကုန် သို့မဟုတ် ကိရိယာ တန်ဆာပလာများ ဝယ်ယူမှုအတွက် တစ်ဆင့်ခံလုပ်ငန်း လုပ်ကိုင်ခွင့်ရသူ တစ်ဦး သို့မဟုတ် အများကို လွတ်လပ်စွာ ရွေးချယ်နိုင်သည်။ တစ်ဆင့်ခံလုပ်ငန်း လုပ်ကိုင်ခွင့်ရသူ အားလုံးသည် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏ အမည်ကိုသာရယူရမည့်အပြင် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ သဘောတူညီချက်နှင့်အညီ ဖြစ်ရမည်။

(ဈ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လမ်းနှင့်တံတားများ၏ ပုံစံအတွက်အဆိုပြုချက် တင်သွင်းရ မည်။ သို့ရာတွင် ယင်းတို့သည် အသေးစိပ်ဖော်ပြချက်ပါ လိုအပ်ချက်များထက် အဆင့် မနိမ့်စေရ။ အဆိုပြုချက် အသစ်တင်ပြရန်လိုအပ်လာပါက အဆိုပြုချက်အသစ်အရ ဆောင်ရွက်ရာတွင် ဆောက်လုပ်မည့် အချိန်ဇယားသည် နောက်ကျခြင်းမရှိစေရ။

(ည) မြေကိုင်းသည့်မြေပုံတွင် ဖော်ပြထားသည့် လမ်း၏လမ်းအူကြောင်းကို လုပ်ငန်းလုပ်ကိုင် ခွင့်ပြုသူ၏ ခွင့်ပြုချက်ဖြင့် လိုအပ်သလိုပြင်နိုင်သည်။

(ဋ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် သဘာဝပတ်ဝန်းကျင် ထိန်းသိမ်းမှု (လုပ်ငန်းခွင်နေရာ အတွင်းနှင့်အပြင်) အတွက် လုပ်ငန်းဆောင်ရွက်မှုကြောင့် လေထု၊ ရေနှင့် မြေအား ညစ်ညမ်းမှုနှင့် သဘာဝပတ်ဝန်းကျင် အခြေအနေယုတ်လျော့မှု မရှိအောင် ထိန်းသိမ်းရန် အများပြည်သူနှောင့်ယှက်မှု မရှိစေရန်တို့အတွက် လိုအပ်သောအစီအမံများ ချမှတ်ဆောင် ရွက်ပေးရမည်။

(ဌ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် အထူးအကြောင်းကိစ္စရပ်များကြောင့် သတ်မှတ်ချိန်အတွင်း လုပ်ငန်းကို ပြီးစီးအောင်မဆောင်ရွက်နိုင်လျှင် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံ စာဖြင့်ရေး သား၍ တောင်းဆိုမှုပြုနိုင်သည်။ ယင်းတောင်းဆိုချက်တွင် လုပ်ငန်းပြီးစီးအောင်ဆောင်

ရွက်မှုအတွက် အသေးစိပ်အချက်အလက်များနှင့် အချိန်တိုးမြှင့်ပေးရန်အတွက် အသေးစိပ် အကြောင်းပြချက်များပါဝင်ရမည်။ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် ယင်းတင်ပြချက် အထောက်အထားများအပေါ် အခြေပြု၍ အချိန်တိုးပေးရန် စဉ်းစားမည်။

(ဍ) လမ်းဖြတ်သန်းသွားလာခွင့်အတွင်း လုပ်ငန်းဆောင်ရွက်ရာတွင် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ သည် သစ်တောဥပဒေပါ ပြဋ္ဌာန်းချက်များကို လိုက်နာရမည်။

(ဎ) လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ ခွင့်ပြုချက်မရဘဲ လုပ်ငန်းကို လွှဲပြောင်းခြင်း၊ လုပ်ငန်းတစိတ်တဒေသကို ထပ်ဆင့်ငှားရမ်းခြင်းမပြုရ။

(ဏ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်ထံမှ လုပ်ငန်းစတင်ရန်အကြောင်း ကြားချက်ရရှိသည်နှင့် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လမ်းပန်းဆက်သွယ်မှု ပြတ်တောက် ခြင်း မရှိစေရန်အတွက် လုပ်ငန်းစီမံကိန်း နယ်နမိတ်အတွင်းရှိ လမ်းနှင့်တံတားများကို ကောင်းစွာထိန်းသိမ်းထား ရှိရမည်။ ထို့အပြင် လုပ်ငန်းဆောင်ရွက်သည့် ကာလအနှစ်(၃၀) အတွင်း လမ်းများ၊ တံတားများကို ကောင်းမွန်သော အနေအထားရှိစေရန် အစဉ်ပြုပြင် ထိန်းသိမ်းရေး လုပ်ငန်းများကိုလည်း လုပ်ငန်းလုပ်ကိုင်ခွင့်ရသူက ဆောင်ရွက်ရမည်။

(တ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ ခွင့်ပြုချက်မရဘဲ လမ်းတံတားအသုံးပြုခ ကောက်ခံရာ ဂိတ်များနှင့် ကောက်ခံသည့် နှုန်းထားများကို ပြောင်းလဲခြင်းမပြုရ။

(ထ) စတင်ကောက်ခံသည့် ပထမ(၃)နှစ်ကာလအတွက် လမ်းဖြတ်သန်းခမှ နိုင်ငံတော်သို့ ပေးသွင်းခြင်းကို ကင်းလွတ်ခွင့်ပြုသည်။

(ဒ) ကောက်ခံရရှိသည့် လမ်းအသုံးပြုခကောက်ခံရငွေစုစုပေါင်းမှ အောက်ဖော်ပြပါ ရာခိုင်နှုန်း အတိုင်း နှစ်သက်တမ်းအလိုက် နိုင်ငံတော်သို့ ပေးသွင်းရမည်။

| | | |
|---|---|---|
| ၄ နှစ်မြောက်မှ ၁၃ နှစ်မြောက်ထိ | (၁၀နှစ်) | ၁၀% |
| ၁၄ နှစ်မြောက်မှ ၂၃ နှစ်မြောက်ထိ | (၁၀နှစ်) | ၂၀% |
| ၂၄ နှစ်မြောက်မှ ၃၀ နှစ်မြောက်ထိ | ( ၇နှစ်) | ၃၀% |

(ဓ) ညှိနှိုင်းထားသော ကောက်ခံနှုန်းထားများအတိုင်း လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှ ကောက်ခံရာ တွင် အကျိုးအမြတ်မရရှိမှု အရှုံးပေါ်မှုများရှိလာပါက ကောက်ခံသည့် လမ်းဖြတ်သန်းခ နှုန်းထားများကို ညှိနှိုင်းပြင်ဆင်ရန်အတွက် တင်ပြခွင့်ရှိသည်။

(န) ခွင့်ပြုထားသော လမ်းဖြတ်သန်းခ ကောက်ခံသည့်ကာလ နှစ်(၃၀)ပြည့် ပြီးနောက် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှ အကျိုးအမြတ်မရရှိခဲ့လျှင်သော်၎င်း ဆက်လက်ဆောင်ရွက်လို လျှင်သော်၎င်း၊ ကောက်ခံမှုသက်တမ်းကာလကို တစ်ကြိမ်လျှင်(၅)နှစ်စီ သက်တမ်းတိုးမြှင့်၍ ကောက်ခံခွင့်ရရှိရေးအတွက် တင်ပြနိုင်သည်။

(ပ) လမ်းဖြတ်သန်းခ စတင်ကောက်ခံသည့် ပထမ(၃)နှစ်ကာလအတွက်အမြတ်ခွန်စည်းကြပ်မှု ကင်းလွတ်ခွင့်ပြုမည်ဖြစ်ပြီး၊ယင်းနောက်ပိုင်းသင့်တော်သောနှုန်းဖြင့် အမြတ်ခွန်စည်းကြပ် ကောက်ခံသွားမည်ဖြစ်ပါသည်။

## ၁၂။ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တာဝန်များ

(က) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှ ပဋိညာဉ်စာချုပ်ပါ လုပ်ငန်းများ ဆောင်ရွက်နိုင်ရန်နှင့် ဥပဒေနှင့်အညီ စီးပွားရေးလုပ်ငန်းများ ဆောင်ရွက်နိုင်ရန် လိုအပ်သောခွင့်ပြုမိန့်ကို မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှရရှိရန် ပံ့ပိုးကူညီ ဆောင်ရွက်ပေးရမည်။

(ခ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် လုပ်ငန်းစီမံကိန်းအတွက်လိုအပ်သော သက်ဆိုင်ရာဝန်ကြီး ဌာနများ၊ အစိုးရဌာနများ၏အတည်ပြုချက် သဘောတူညီချက်များရရှိအောင် ဆောင်ရွက် ပေးရမည်။

(ဂ) လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူသည် ဆိုခဲ့သည့်လုပ်ငန်း စီမံကိန်းအတွက် အဆိုပြုထားသော လမ်းဖြောင့်တန်းမှုအတိုင်း ရရှိစေရန် ဖြည့်ဆည်းဆောင်ရွက်ပေးရမည်။

## ၁၃။ လုပ်ငန်းအကောင်အထည်ဖော်ရန် တာဝန်ယူသည့် ဘဏ်အာမခံ

လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် စာချုပ်ချုပ်ဆိုပြီး (၂၈)ရက်အတွင်း ရင်းနှီးမြှုပ်နှံမှု ကုန်ကျစရိတ်၏ ၁% နှင့် ညီမျှသောငွေကို ပြည်ထောင်စုမြန်မာနိုင်ငံအတွင်းရှိ တရားဝင်ခွင့်ပြုထားသော ဘဏ်တစ်ခုခုမှ ထုတ်ပေးသည့် ကြိုတင်စည်းကမ်းချက်များမပါရှိဘဲ ပြန်လည်ရုတ်သိမ်းနိုင်ခွင့်မရှိသော လုပ်ငန်းအကောင် အထည်ဖော်ရန် တာဝန်ယူသည့် ဘဏ်အာမခံကို လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံသို့ ထုတ်ပေးရမည်။ အဆိုပါ ဘဏ်အာမခံ၏သက်တမ်းသည် စတင်ထုတ်ပေးသည့်နေ့မှ လုပ်ငန်းပြီးဆုံးအောင် ဆောင်ရွက် သည့်အထိဖြစ်သည်။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းစတင်ရန် အကြောင်းကြားစာရပြီး(၃၀)ရက် အတွင်း လုပ်ငန်းစတင်ရန် ပျက်ကွက်လျှင်သော်လည်းကောင်း၊ (၃၆)လအတွင်း လုပ်ငန်းကို ပြီးစီးအောင် ဆောင်ရွက်ရန်အပါအဝင် စာချုပ်ပါ စည်းကမ်းချက်များကို လိုက်နာရန် ပျက်ကွက်ပါက ဘဏ်အာမခံငွေကို လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူက သိမ်းယူရမည်။ ဘဏ်အာမခံကို လုပ်ငန်းအပြီးသတ် ဆောင်ရွက်ပြီးစီးမှု လက်မှတ်ထုတ်ပေးပြီး ရက်ပေါင်း(၃၀)အတွင်း လုပ်ငန်းလုပ်ကိုင်ခွင့်ရသူထံ ပြန်လည်ထုတ်ပေးရမည်။ဘဏ် အာမခံပုံစံသည် နောက်ဆက်တွဲ ( )ပါအတိုင်း ဖြစ်သည်။

၁၄။ <u>လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏ တရားဝင်ကိုယ်စားလှယ်</u>

- လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် တရားဝင်ကိုယ်စားလှယ်ခန့်ရန် ရည်ရွယ်သူ(များ)၏အမည်၊ ကိုယ်ရေးအချက်အလက်များကို လုပ်ငန်းစတင်ရန် အကြောင်းကြားစာ ထုတ်ပေးသည့်နေ့မှ (၁၄)ရက်အတွင်း လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံ တင်ပြရမည်။

- ယင်းကိုယ်စားလှယ်သည် ဆောက်လုပ်ရေးနှင့်သက်ဆိုင်သည့် အထောက်အထားများ ပြင်ဆင်ထားရှိခြင်း လုပ်ငန်းအကောင်အထည်ဖော် ဆောင်ရွက်ခြင်းများကို အချိန်ပြည့် ဆောင်ရွက်ပေးရမည်။

- ယင်းကိုယ်စားလှယ်သည် လုပ်ငန်းခွင်မှ ပျက်ကွက်သည့်အခါ သင့်တော်သူတစ်ဦးကိုအစား ထိုးခန့်ထားပြီးနောက် အစားထိုးခန့်ထားကြောင်းကို လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ ကိုယ်စား လှယ်ထံ အကြောင်းကြားရမည်။

၁၅။ <u>တဆင့်ခံလုပ်ငန်း လုပ်ကိုင်ခွင့်ပြုခြင်း</u>

လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းတစ်ခုလုံးအား တဆင့်ခံလုပ်ကိုင်ခွင့်မပြုရ လုပ်ငန်းတစိတ် တဒေသကိုမူ တဆင့်ခံလုပ်ကိုင်ခွင့် ပြုနိုင်သည်။

ယင်းသို့ တဆင့်ခံလုပ်ကိုင်ခွင့်ရသူက ပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များကိုလိုက်နာစေရန် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူက တာဝန်ယူရမည်။ လုပ်ငန်းတစ်ဆင့်ခံလုပ်ကိုင်ခွင့်ရသူ သို့မဟုတ် ယင်း၏ တရားဝင်ကိုယ်စားလှယ် သို့မဟုတ် အလုပ်သမား၏ပြုလုပ်မှု သို့မဟုတ် ပျက်ကွက်မှုသည် လုပ်ငန်း လုပ်ကိုင်ခွင့်ရသူ၏ ပြုလုပ်မှု သို့မဟုတ် ပျက်ကွက်မှုကဲ့သို့ ယင်းတွင် တာဝန်ရှိစေရမည်။

၁၆။ <u>လုပ်ငန်းအစီအစဉ်နှင့် တိုးတက်မှု</u>

လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် လုပ်ငန်းအစီအစဉ်ကို လုပ်ငန်းစတင်သည့်နေ့မှ(၂)လအတွင်း လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူထံ တင်သွင်းရမည်။

လစဉ်တိုးတက်မှုအစီရင်ခံစာ (နှစ်ဘက်သဘောတူ၍ လက်မှတ်ထိုးထားသည့်ပုံစံဖြင့်)ကို မိတ္တူ (၆)စုံပြုစုပြီး လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ ကိုယ်စားလှယ်မှတဆင့် လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူထံ တင်သွင်း ရမည်။

၁၇။ **စစ်ဆေးခြင်း**

လုပ်ငန်းဆောင်ရွက်ရာ၌ လိုအပ်သောအလုပ်သမား၊ ပစ္စည်းများ၊ လျှပ်စစ်၊ လောင်စာ၊ သိုလှောင်ခန်းများ၊ စက်ပစ္စည်းကိရိယာများ၊ တန်ဆာပလာများနှင့် လုပ်ငန်းဆောင်ရွက်မှု အစရှိသည်တို့ကို လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူက လိုအပ်သလိုထိရောက်စွာစစ်ဆေးရန်နှင့် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ အထောက်အပံ့ပြုရန်အတွက် စာရွက်စာတမ်း အထောက်အထားများ၊ သတင်းအချက်အလက်များကို ဖြည့်ဆည်းဆောင်ရွက်ပေးရမည်။ လမ်းဖောက်လုပ်ပြုပြင်ခြင်းလုပ်ငန်း ပြီးဆုံး၍ လုပ်ငန်းစတင်ဆောင်ရွက်သည့် အချိန်မှစ၍ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ကောက်ခံရရှိသော လမ်းဖြတ်သန်းခငွေများနှင့် စပ်လျဉ်းသည့် စာရင်းအင်းများ အပြည့်အစုံစနစ်တကျ ထားရှိရမည်။ အဆိုပါ စာရင်းအင်းများကို လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူက အခါအားလျော်စွာ စစ်ဆေးခွင့်ရှိရမည်။

၁၈။ **ကန့်ကွက်ခြင်း**

စစ်ဆေးတွေ့ရှိချက်များအရ အဆိုပါ စက်ရုံ၊ အလုပ်ရုံ၊ ပစ္စည်းများ၊ ပုံစံထုတ်ခြင်း သို့မဟုတ် ကျွမ်းကျင်မှုလက်ရာများနှင့်စပ်လျဉ်း၍ ချို့ယွင်းမှု သို့မဟုတ် ပဋိညာဉ်စာချုပ်နှင့် မကိုက်ညီမှုတွေ့ရှိရပါက လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်က ကန့်ကွက်နိုင်သည့်အပြင် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူထံ ချက်ချင်းအကြောင်းကြားရမည်။ လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ချို့ယွင်းချက်ကို ကောင်းစွာ ပြန်လည်ဆောင်ရွက်ပေးရန်နှင့် ကန့်ကွက်ခံရသည့်ပစ္စည်းများကို ပဋိညာဉ်စာချုပ်နှင့်အညီဖြစ်စေရန် တာဝန်ယူရမည်။

၁၉။ **မလွန်ဆန်နိုင်သော ဖြစ်ရပ်များ**

စာချုပ်ဝင်တစ်ဖက်ဖက်သည် မလွန်ဆန်နိုင်သောဖြစ်ရပ်ကြောင့် ဤပဋိညာဉ်စာချုပ်အရဆောင်ရွက်ရမည့် တာဝန်များကိုဆောင်ရွက်ရန် သို့မဟုတ် အခြားတစ်ဖက်ဖက်၏ ဆောင်ရွက်မှုကို လက်ခံရန် လုံးဝဖြစ်စေ၊ တစိတ်တဒေသဖြစ်စေ ယာယီအားဖြင့် လုပ်ဆောင်နိုင်စွမ်းမရှိလျှင် ထိုသို့လုပ်ဆောင်နိုင်စွမ်းမရှိသည့်ဖက်မှ မလွန်ဆန်နိုင်သောဖြစ်ရပ်၏ အသေးစိပ်အကြောင်းအရာ ဖော်ပြလျက်လုပ်ဆောင်နိုင်စွမ်းမရှိသော ဖြစ်ရပ်ပေါ်ပေါက်သည့် (၁၄)ရက်အတွင်း အခြားတစ်ဖက်သို့ အကြောင်းကြားစာပေးပို့ရမည်။

မလွန်ဆန်နိုင်သောဖြစ်ရပ်၏ အကျိုးသက်ရောက်မှုခံရသည့် တစ်ဦးတဖက်၏တာဝန်များကို အခြားတဖက်၏ အတည်ပြုချက်ဖြင့် ထိုသို့မစွမ်းဆောင်နိုင်မှု ဖြစ်ပေါ်လာသည့်ကာလအတွင်း (ထိုကာလထက် လုံးဝမကျော်လွန်စေဘဲ) ရပ်ဆိုင်းထားရမည်။ ထို့ပြင် ထိုသို့မစွမ်းဆောင်နိုင်မှု ဖြစ်ပေါ်ရသည့် အကြောင်းရင်းကို ဖြစ်နိုင်သမျှ ဆောလျင်စွာဖယ်ရှားပစ်ရမည်။

"မလွန်ဆန်နိုင်သောဖြစ်ရပ်" ဆိုသည်မှာ သဘာဝဘေးအန္တရာယ်များ၊ အစိုးရတားမြစ်ချက်၊ သပိတ်မှောက်ခြင်းများ၊ သောင်းကျန်းမှုများ၊ အဓိကရုန်းများ၊ ရောဂါဘယကျရောက်ခြင်း၊ ပြည်သူတို့၏

နှောင့်ယှက်ရန်ပြုမှုများ၊ ပေါက်ကွဲမှုများ၊ မီးလောင်ခြင်း၊ ရေကြီးခြင်း၊ မြေငလျင်လှုပ်ခြင်း၊ မုန်တိုင်းကျရောက်ခြင်းနှင့် တစ်ဦးဦးက ထိန်းချုပ်နိုင်စွမ်းမရှိသော၊ ထိုက်သင့်သောဂရုပြုမှု၊ ဝီရိယစိုက်ထုတ်မှုပြုလျက်နှင့် တစ်ဦးဦးက ကျော်လွှားနိုင်ခြင်းမရှိသော ဖော်ပြခဲ့ပြီးသည့်အလားတူ အကြောင်းတစ်ရပ်ရပ်ကို ဆိုလိုသည်။

## ၂၀။ ပဋိညာဉ်စာချုပ်ကို ရပ်စဲခြင်း

ပဋိညာဉ်စာချုပ်ကို အောက်ပါအကြောင်းတစ်ရပ်ရပ် ပေါ်ပေါက်ပါက ရပ်စဲနိုင်သည် -

(က) စာချုပ်ဝင်တစ်ဦးဦးမှ ပဋိညာဉ်စာချုပ်ပါ တာဝန်များကို မဆောင်ရွက်နိုင်လျှင်

(ခ) စာချုပ်ဝင်တစ်ဦးဦးမှ ပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်တစ်စုံတစ်ရာကို ချိုးဖောက်လျှင်၊

(ဂ) ကြိုတင် မမျှော်မှန်းနိုင်သည့်အပြင် တားဆီးခြင်းမပြုနိုင်သောဖြစ်ရပ်များသည် (၆)လ ဆက်တိုက်ပေါ်ပေါက်လျှင်၊

(ဃ) စာချုပ်ကို ရပ်စဲရန် နှစ်ဦးနှစ်ဘက် သဘောတူလျှင်၊

## ၂၁။ အာမခံချက်

လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် နောက်ဆက်တွဲ( )ပါ တင်ဒါစာအုပ်တွင် အသေးစိပ်ဖော်ပြထားချက်များနှင့်အညီ စာချုပ်ပါလုပ်ငန်းများကို ပြီးဆုံးအောင်ဆောင်ရွက်ရန် အာမခံပါသည်။ ယင်းအာမခံသည့် စာချုပ်ပါလုပ်ငန်းများ ပြီးစီးအောင်ဆောင်ရွက်ပြီးနောက် (၁၂)လထိ တရားဝင်စေရမည်။

## ၂၂။ ပြောင်းလဲခြင်းများ

ပြောင်းလဲခြင်းများကို လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်မှ ပဋိညာဉ်စာချုပ်သက်တမ်းကာလအတွင်း "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" အား အဆိုပြုလွှာ တင်သွင်းခိုင်း၍ဖြစ်စေ၊ လိုအပ်သည့် ညွှန်ကြားချက်များ ထုတ်ပြန်၍ဖြစ်စေ၊ အခါအားလျော်စွာ ဆောင်ရွက်ပိုင်ခွင့်ရှိသည်။ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်မှ လုပ်ငန်းပြောင်းလဲရန် အဆိုပြုလွှာ တင်သွင်းခိုင်းသော်လည်း ၎င်းပြောင်းလဲသည့် လုပ်ငန်းအား ချက်ခြင်းဆောင်ရွက်စေခြင်း မပြုစေရပါ။

"လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" အနေဖြင့် လုပ်ငန်းကို ပိုမိုကောင်းမွန်အောင် ပုံစံပြုပြောင်းလဲဆောင်ရွက်ခြင်းလုပ်ငန်းကို "လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ" ၏ တရားဝင်ကိုယ်စားလှယ်ထံမှ အတည်ပြုခြင်းဆောင်ရွက်ရန် တစုံတရာညွှန်ကြားချက်များမရရှိမီ ဆောင်ရွက်ခြင်းမပြုရပါ။

လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်မှ လုပ်ငန်းပြောင်းလဲဆောင်ရွက်ရန် အဆိုပြုလွှာတင်သွင်းရန် တောင်းဆိုလာပါက "လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ" အနေဖြင့် အောက်ဖော်ပြပါအတိုင်း ဆောင်ရွက်ရမည်။

(က) ပြောင်းလဲအဆိုပြုမည့် လုပ်ငန်းအမျိုးအစားအလိုက် အသစ်ပုံစံပြုလွှာ လုပ်ငန်းအစီအစဉ်နှင့် လုပ်ငန်းစီမံချက်များ ရေးဆွဲတင်ပြရမည်။

(ခ) လိုအပ်သော အသစ်ပြုပြင်ရေးဆွဲထားသည့် လုပ်ငန်းစီမံချက်အတွက် လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏ အဆိုပြုလွှာ ရေးဆွဲတင်ပြခြင်း။

လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်အနေဖြင့် အဆိုပြုလွှာ လက်ခံရရှိပြီးနောက် (၁၄)ရက်အတွင်း အတည်ပြုအမိန့်များ သို့မဟုတ် ကန့်ကွက်လွှာများ သို့မဟုတ် ဆောင်ရွက်နိုင်းသည့် အမိန့်များ ထုတ်ပြန်ပေးရမည်။

လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်သည် မိမိညွှန်ကြားသည့် မည်သည့်လုပ်ငန်း ပြောင်းလဲခြင်းမဆို လုပ်ငန်းလုပ်ကိုင်ခွင့်ရသူအတွက် အပိုကုန်ကျစရိတ်ငွေများ မရှိစေရန် အထူးသတိထား ဆောင်ရွက်ရမည်။ မည်သည့်လုပ်ငန်း ပြောင်းလဲခြင်းမှ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တည်ပြုချက်မရယူပဲ ညွှန်ကြားစေနိုင်းခြင်း မပြုရပါ။

လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ တရားဝင်ကိုယ်စားလှယ်သည် လုပ်ငန်းပြောင်းလဲခြင်းအား အတည်ပြုပြီး သို့မဟုတ် ဆောင်ရွက်ရန်ညွှန်ကြားပြီးတိုင်း ပဋိညာဉ်စာချုပ်ပါ သတ်မှတ်ကာလအား ပြန်လည်ပြင်ဆင်သတ်မှတ်ရန် ဆုံးဖြတ်ချက် သို့မဟုတ် သဘောတူညီချက်ရရှိအောင် ဆက်လက်ဆောင်ရွက်ပေးရမည်။

## ၂၃။ <u>လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏ ပျက်ကွက်မှု</u>

လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ယင်း၏ တာဝန်ဝတ္တရားများကိုဆောင်ရွက်ရန် ပျက်ကွက်လျှင်ဖြစ်စေ စာချုပ်ပါလုပ်ငန်းကို ဆောင်ရွက်ခြင်းမပြုလျှင်ဖြစ်စေ၊ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူ၏ ကိုယ်စားလှယ်သည် အဆိုပါ ပျက်ကွက်မှုအတွက် သင့်တင့်လျောက်ပတ်သောအချိန်အတွင်း အကောင်းဆုံးပြန်လည်ဆောင်ရွက်ပေးရန်နှင့် ပြုပြင်ပေးရန် အကြောင်းကြားစာ ပေးပို့နိုင်သည်။

လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် စာချုပ်တွင်သတ်မှတ်ထားသော ကာလအတွင်း စာချုပ်ပါလုပ်ငန်းကို ပြီးစီးအောင် ဆောင်ရွက်နိုင်ခြင်းမရှိပါက လုပ်ငန်းလုပ်ကိုင်ခွင့်ရသူ၏ လုပ်ငန်းမပြီးစီးသည့် လုပ်ငန်း ဆောင်ရွက်မှုများအပေါ် စိစစ်၍ ထပ်မံလုပ်ခွင့်ပေးရန် မသင့်ဟုယူဆပါက စာချုပ်ပါလုပ်ငန်းအား လုပ်ငန်း လုပ်ကိုင်ခွင့်ပြုသူမှ သိမ်းယူခွင့်ရှိသည်။

၂၄။ အာမခံထားရှိခြင်း

လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် မြန်မာနိုင်ငံသားများ ရင်းနှီးမြုပ်နှံမှုဥပဒေနှင့် လုပ်ထုံးလုပ်နည်းများ မြန်မာ့အာမခံဥပဒေနှင့် လုပ်ထုံးလုပ်နည်းများပါ ပြဋ္ဌာန်းချက်များနှင့်အညီ လုပ်ငန်းစီမံကိန်းအတွက် လိုအပ်သော အာမခံအရပ်ရပ်ကို ထားရှိ ဆောင်ရွက်ရမည်။

၂၅။ ပဋိညာဉ်ပြီးဆုံးခြင်း

ပဋိညာဉ်စာချုပ်ပါ စည်းကမ်းချက်များနှင့်အညီ စာချုပ်ပါလုပ်ငန်းကို လုပ်ငန်းလုပ်ကိုင်ခွင့်ရသူမှ အပြည့်အဝ ပြီးဆုံးအောင် ဆောင်ရွက်ပြီးစီးသည့်အခါမှသာ ပဋိညာဉ်ပြီးဆုံးသည်ဟု မှတ်ယူရမည်။

၂၆။ လွှဲပြောင်းပေးအပ်ခြင်း

လုပ်ငန်းလုပ်ကိုင်ခွင့်ရသူသည် ဤသဘောတူစာချုပ်အရ လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသည့် ကာလ အနှစ်(၃၀) သို့မဟုတ် လုပ်ငန်းဆက်လက်လုပ်ကိုင်ရန် နောက်ထပ်တိုးမြှင့်သောကာလများ ပြီးဆုံးပါက အဆိုပါ လမ်းနှင့်တံတားများ ဂိတ်များနှင့်အဆောက်အဦများကို လုပ်ငန်းလုပ်ကိုင်ခွင့်ပြုသူအား အဖိုးစားနား တစ်စုံတစ်ရာမရှိဘဲ လွှဲပြောင်းပေးရမည်။

၂၇။ ဆက်သွယ်ရန် လိပ်စာများ

ပဋိညာဉ်စာချုပ်ဝင်များအကြား စာဖြင့်ရေးသားဆက်သွယ်ရန် လိပ်စာမှာ အောက်ပါအတိုင်း ဖြစ်သည်။

ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း
အမှတ်(၆၀)၊ ရွှေတိဂုံဘုရားလမ်း၊
ဒဂုံမြို့နယ်၊ ရန်ကုန်မြို့

နှင့်

အေးရှားဝေါ(လ်)ကုမ္ပဏီလီမိတက်
အမှတ်(၆၁-၆၂)၊ ဝါးတန်းလမ်း၊
ဗဟိုစည်အိမ်ယာစီမံကိန်း၊ လမ်းမတော်မြို့နယ်၊
ရန်ကုန်မြို့။

၂၈။ <u>စာချုပ်အသက်ဝင်သည့်နေ့</u>

ဤစာချုပ်သည် နှစ်ဦးနှစ်ဘက် လက်မှတ်ရေးထိုးသည့်နေ့မှစ၍ အသက်ဝင်အတည်ဖြစ်သည်။ သက်သေထင်ရှားစိမ့်သောငှာ စာချုပ်ချုပ်ဆိုရာတွင် ပါဝင်သူများသည် အထက်ဖော်ပြပါ ( )ရက်၊ ( ) လ၊ ( ) ခုနှစ် တို့တွင် ဤစာချုပ်ကို လက်မှတ်ရေးထိုးကြပါသည်။

| | |
|---|---|
| ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်း အတွက်နှင့် လက်မှတ်ရေးထိုးသူ | အေးရှားဝေါ(လ်)ကုမ္ပဏီအတွက် နှင့် ကိုယ်စားလက်မှတ်ရေးထိုးသူ |
| ( ) | ( ) |
| **ဦးဆောင်ညွှန်ကြားရေးမှူး** | **မန်နေးဂျင်းဒါရိုက်တာ** |

<u>သက်သေများ</u>

| | |
|---|---|
| **အမည်** - . . . . . . . . . . . . | **အမည်** - . . . . . . . . . . . |
| **ရာထူး** . . . . . . . . . . . . . . | **ရာထူး** . . . . . . . . . . . . . |

၁၇၀၅
1/7/96

စ. ၀၆၇

# ပြည်ထောင်စုမြန်မာနိုင်ငံတော်အစိုးရ

**ဆောက်လုပ်ရေးဝန်ကြီးဌာန**

စာအမှတ်၊ ၁/ခွဲ-၂/ထွေ/၉၆ (စီ ၁၀၉၀)
ရက်စွဲ ၊ ၁၉၉၆ ခုနှစ်၊ ဇူလိုင်လ ၁ ရက်

သို့



ဥက္ကဋ္ဌ
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
ရန်ကုန်မြို့

အကြောင်းအရာ။ ရှမ်းပြည်နယ်မြောက်ပိုင်းမန္တလေး-လားရှိုး-မူဆယ် ပြည်ထောင်စုလမ်းမကြီး၊ နောင်ချို-လားရှိုးအပိုင်း နှင့်လားရှိုး-မူဆယ်အပိုင်းကိုပုဂ္ဂလိကတိုင်းရင်းသား လုပ်ငန်းရှင်များအား ဖေါက်လုပ်ဆောင်ရွက်ခွင့်ပြုရေး

ရည်ညွှန်းချက် ။ ဤဝန်ကြီးဌာန၏ ၁၉၉၆ ခုနှစ်၊ ဇွန်လ ၂၁ ရက်နေ့စွဲပါစာအမှတ်၊ ၁/ခွဲ၂/ထွေ/၉၆ (စီ ၁၇၀၉)

၁။ ၁၉၉၆ ခုနှစ်၊ ဇွန်လ ၂၀ ရက်နေ့တွင်မြန်မာ့ရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့၊ ကုမ္ပဏီများအား ခေါ်ယူတွေ့ဆုံညှိနှိုင်းချက်အရ၊ မန္တလေး-လားရှိုး-မူဆယ် ပြည်ထောင်စုလမ်းမကြီး၏လားရှိုး-မူဆယ်လမ်းအပိုင်း ၊ မိုင်တိုင်အမှတ်၊ ၁၇၂/၀ မှ ၂၇၄/၃ အထိအရှည် (၁၀၂) မိုင် (၃) ဖာလုံရှိ သောလမ်းမကြီးကိုတည်ဆောက်လုပ်ကိုင်ခွင့်ရရှိနိုင်ရေးအတွက်တင်ပြလာသည့်အေးရှားဝေါ (လ်) ကုမ္ပဏီလီမိတက်၏အဆိုပြုလွှာ (၁၂) စုံကိုလိုအပ်သည့်ခွင့်ပြုမိန့်နှင့်အမိန့်ကြော်ငြာစာ များ ထုတ်ပြန်ပေးနိုင်ပါရန်ပူးတွဲပေးပို့အပ်ပါသည်။

၂။ ကျန်ကုမ္ပဏီများ၏အဆိုပြုလွှာများကိုလည်း လက်ခံရရှိသည့်အခါဆက်လက်ပေး ပို့မည်ဖြစ်ပါကြောင်း ဖော်ပြအပ်ပါသည် ။

၁/၇/၉၆

ဝန်ကြီး (ကိုယ်စား)
(မင်းသိမ်း ၊ ဒုံးအဖွဲ့မှူး)

မိုး

အကြောင်းအရာ။ ။ လားရှိုး-မူဆယ်ကားလမ်းအားပြုပြင်ဖောက်လုပ်တည့်ဆောက်၍လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်းအတွက်စက်ပစ္စည်းရင်းနှီးမြှုပ်နှံမှုပမာဏတိုးမြှင့်ခြင်းကိစ္စ။

၁။ မြန်မာနိုင်ငံမှ အေးရှားဝါး (လ်) ကုမ္ပဏီလီမိတက်သည့် ဆောက်လုပ်ရေးဝန်ကြီးဌာန၊ ပြည်သူ့ဆောက်လုပ်ရေးလုပ်ငန်းဗိုင်၊ ရှမ်းပြည်နယ်မြောက်ပိုင်း၊ မန္တလေး-လားရှိုး-မူဆယ်ပြည်ကောင်စုလမ်းမကြီး၏လားရှိုး-မူဆယ်ကားလမ်းအပိုင်း၊ မိုင်တိုင်အမှတ် ၁၇၂/၀မှ ၂၇၄/၃အထိ (၁၀၂') မိုင်(၃) ဖါလုံ ရှည်လျားသောလမ်းမကြီးအားပြုပြင်ဖောက်လုပ်တည့်ဆောက်၍လမ်းအသုံးပြုခကောက်ခံခြင်းလုပ်ငန်းကိုလုပ်ကိုင်ဆောင်ရွက်ခွင့်ကိုမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ၂၂-၇-၉၆ နေ့တွင်ခွင့်ပြုမိန့်ထုတ်ပေးခဲ့ပါသည်။

၂။ အေးရှားဝါ (လ်) ကုမ္ပဏီလီမိတက်အား ခွင့်ပြုမိန့်ပေးစဉ်က နိုင်ငံခြားငွေအမေရိကန်ဒေါ်လာ ၂၇သန်း အပါအဝင်စုစုပေါင်းကျပ် ၉၀၂သန်း ရင်းနှီးမြှုပ်နှံရန်ဖြစ်ပါသည်။ ယင်းနိုင်ငံခြားငွေအမေရိကန်ဒေါ်လာ ၂၇သန်းတွင် ငွေသား အမေရိကန်ဒေါ်လာသန်း ၂၀၊ စက်ပစ္စည်းများ အမေရိကန်ဒေါ်လာ ၅သန်းနှင့်လုပ်ငန်းသုံးပစ္စည်း အမေရိကန်ဒေါ်လာ ၂သန်း ပါဝင်ပါသည်။

၃။ ယခုအခါ အေးရှားဝါး (လ်) ကုမ္ပဏီလီမိတက်အနေဖြင့်မူလခွင့်ပြုခဲ့သောစက်ပစ္စည်းရင်းနှီးမြှုပ်နှံမှုတန်ဖိုး အမေရိကန်ဒေါ်လာ ၅သန်းနှင့် မလုံလောက်ပါ၍ ယင်းအစား အမေရိကန်ဒေါ်လာ ၁၃.၈၀သန်းတန်ဖိုးရှိစက်ပစ္စည်းများကိုတိုးမြှင့်တင်သွင်းလိုပါကြောင်း တင်ပြလာခြင်းဖြစ်ပါသည်။ (ပူးတွဲ)

၄။ အဆိုပါတိုးမြှင့်လာသောစက်ပစ္စည်းရင်းနှီးမြှုပ်နှံမှုပမာဏမှာ မူလရင်းနှီးငွေဖြစ်သော နိုင်ငံခြားငွေ အမေရိကန်ဒေါ်လာ ၂၇သန်းဘောင်အတွင်းဖြစ်ပါသဖြင့် တိုးမြှင့်ခွင့်ပြုနိုင်ပါရန်တင်ပြလမ်းညွှန်မှုခံယူအပ်ပါသည်။



*ညှ၃၁/၇/၉၆။